လက်တွေ့အသုံးချသုတေသနဆိုင်ရာနယ်ပယ်များအတွက်

# သက်သေအခြေပြု သုတေသနစာတမ်းရေးနည်းလမ်းညွှန်

# Evidence based Research in Qualitative method

Chicago/ Turabian Style

(Author-date style and Footnote & Endnote style)

16th edition

တတိယအကြိမ်

ပြည့်စွက် ထုတ်ဝေသည်။

Shwe Linn (Researcher)

သက်သေအထောက်အထားများကို အခြေပြုပြီးပြုလုပ်ရတဲ့ သုတေသနကို သက်သေအခြေပြု သုတေသန (Exidence-based research or EBR) လို့ ခေါ်ဆိုပါတယ်။ သက်သေအခြေပြုကျင့်သုံးမှုများကိုတော့ သက်သေအခြေပြု လက်တွေ့ကျင့်သုံးမှု (Evidence-based practice or EBP) လို့ခေါ်ပါတယ်။ များသောအားဖြင့် သက်သေအခြေပြု သုတေသနကို ဆေးဝါးဆိုင်ရာနယ်ပယ်၊ သမိုင်းဆိုင်ရာနယ်ပယ်များ၊ ဘာသာရေးဆိုင်ရာနယ်ပယ်များမှာ အသုံးပြုကြတာပါ။ ဤသုတေသနမှာ ယခင်ဖြစ်ပျက်ခဲ့ပြီးသော အဖြစ်အပျက်၊ အကြောင်းအရာများရဲ့ အားနည်းချက်၊ အားသာချက်၊ လိုအပ်ချက်စသည်များကို သက်သေအထောက်အထားများအား အခြေပြုပြီး တင်ပြရတာဖြစ်ပါတယ်။

စာရေးသူ

Shwe Linn (Researcher)

ISBN 978-99971-0-701-5

# လက်တွေ့ အသုံးချသုတေသနဆိုင်ရာနယ်ပယ်များအတွက်
# သက်သေအခြေပြု
# သုတေသန စာတမ်းရေးနည်းလမ်းညွှန်

# Evidence Based Research in Qualitative method

Chicago/ Turabian Style
(Author-date style and Footnote & Endnote style)
16th edition

(တတိယအကြိမ် ဖြည့်စွက် ထုတ်ဝေခြင်း)

***Shwe Linn (Researcher)***

# ပုံနှိပ်မှတ်တမ်း


| | |
|---|---|
| ထုတ်ဝေသည့်အကြိမ် | - စတုတ္ထအကြိမ် |
| တည်းဖြတ် ထုတ်ဝေသည့်အကြိမ် | - တတိယအကြိမ် |
| ထုတ်ဝေသည့်ကာလ | - ဇူလိုင်လ၊ ၂၀၁၉ |
| မျက်နှာဖုံးဒီဇိုင်းနှင့် အပြင်အဆင် | - မိုးယံ (မိတ္တူ/ကွန်ပျူတာ) |
| ထုတ်ဝေသူ | - ဒေါ်သန်းသန်းလှိုင်၊<br>မြတ်နိုးဝေစာပေ(၀၂၀၉၀)<br>အမှတ်(၁၄၉)၊ ရွှေဘုန်းပွင့်လမ်းမကြီး၊<br>ကျောက်ရေတွင်းရပ်ကွက်၊<br>မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| မျက်နှာဖုံး နှင့် အတွင်းပုံနှိပ် | - ဦးကျော်သူလင်း<br>ဖြူစင်ပုံနှိပ်တိုက် (မြဲ - ၀၀၀၄၅၆)<br>အမှတ်(၁၆၉)၊ ၃၇လမ်း(လယ်)၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| ဖြန့်ချိရေး | - ၇၇၇၇ စာပေဖြန့်ချိရေး<br>၃၈လမ်း(ဈေးရုံ)၊ ၃၈လမ်း(အထက်)<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။<br>၀၉ - ၇၇၇၇၁၃၃၁၇၊ ၀၉ - ၂၅၀၂၆၅၉၂၅ |
| တန်ဖိုး | - ၅၀၀၀ိ/ - |
| အုပ်ရေ | - ၁၀၀၀ |

# မိတ်ဆက်

ဤစာအုပ်သည် အရည်အသွေးဗဟိုပြုသုတေသနဆိုင်ရာ သုတေသနများ ဖြစ်သော သမိုင်း၊ဘာသာရေး နှင့်သက်သေအခြေပြု(အထောက်အထားများဗဟိုပြု) ဆိုင်ရာ သုတေသနရေးသားပြုစုနေကြသော သမိုင်း၊ဘာသာရေးနှင့် သက်ဆိုင်ရာ သုတေသီများအတွက် တစ်စိတ်တစ်ဒေသ အထောက်အကူပြုနိုင်စေရန် ရည်ရွယ်ပြီး ရေးသားထုတ်ဝေလိုက်ခြင်းဖြစ်သည်။

ဤစာအုပ်တွင် အပိုင်း (၃) ပိုင်း ပါဝင်ပါသည်။ ပထမပိုင်းတွင် -

စာတမ်းအမျိုးအစားများ၊ သက်သေအခြေပြု သုတေသန (Argumentative Reesearch) နှင့် Evaluative Research ၊ comparative research ၊ Historical Research ၊ Archeological research၊ Inconological research စသည့် သုတေသနအမျိုးအစား များနှင့် လုပ်ထုံးလုပ်နည်းများကို ပြန်လည်ဖြည့်စွက်ကာ ရေးသားတင်ပြ ထားပါသည်။ ဒုတိယပိုင်းနှင့် တတိယပိုင်းတွင် -

သုတေသနပြုလုပ်ရာတွင် သတင်းအချက်အလက်အမျိုးအစားများ၊ အကိုးအကားအမျိုးအစားများ၊ ဆောင်ရန် ရှောင်ရန် ရေးသားနည်းများ၊ Chicago/ Turabian Reference style ဆိုင်ရာ Intext Citation လုပ်ထုံးလုပ်နည်းများ၊Footnote/ Endnote ပြုလုပ်ပုံ၊ ကိုးကားရေးသားပုံများကို ရေးသားတင်ပြထားပါသည်။

ယင်းကြောင့် ယခုစာအုပ်သည် မြန်မာနိုင်ငံ၏ သက်ဆိုင်ရာ သုတေသန လုပ်ငန်းများ၊ ဖွံ့ဖြိုးမှုလုပ်ငန်းစဉ်များတွင် တစ်စုံတရာ အထောက်အကူပြုနိုင်လိမ့်မည်ဟု ယုံကြပါသည်။

လက်တွေ့နယ်ပယ်တွင် သုတေသနပြုလုပ်နေကြသော ကျောင်းသား၊ ကျောင်းသူ များနှင့် ရဟန်းသံဃာတော်များအတွက်လည်း သုတေသနဆိုင်ရာ သင်တန်းများကို လစဉ်ဖွင့်လှစ်ပေးလျှက်ရှိရာ တက်ရောက်ဆွေးနွေးသင်ယူနိုင်ပါသည်။

ရွှေလင်း<br>
Researcher & Principal<br>
CLR Training Centre

# ကျေးဇူးတင်လွှာ

ယခု **သက်သေအခြေပြု သုတေသန စာတမ်းရေးနည်းလမ်းညွှန်စာအုပ်** ပြီးမြောက်အောင် ဝိုင်းဝန်းကူညီပေးကြသော ဆရာမမျိုးသန္တာ (CLR)၊ ဆရာမမဥ္စူဖြိုး (CLR)၊ စိတ်ရှည်လက်ရှည် စာစီပေးပါသော 'မိုးယံ' ကွန်ပျူတာ/ မိတ္တူဆိုင်မှ ဝန်ထမ်းများအားလည်းကောင်း၊ စာအုပ်ဖြစ်မြောက်ရေးအတွက် လိုအပ်သည့် အချက်အလက်များကို ကူညီပေးပါသော (CLR) ရဲ့အထွေထွေ မန်နေဂျာ ကိုမင်းမင်း အားလည်းကောင်း အထူးကျေးဇူးတင်ရှိပါကြောင်း ဤစာအုပ်ဖြင့် မှတ်တမ်းတင် အပ်ပါသည်။

**စာရေးသူ**

**ရွှေလင်း**

Researcher & Principal

Creative Language & Research Training Centre

# မာတိကာ

## အပိုင်း (၁)

## အပိုင်း(၂)

## Chicago/ Turabian (Author-date style)



## အပိုင်း(၃)

## Chicago/Turabian (Footnote/Endnote Style)

## စာတမ်းပြုစုခြင်း၊ စာတမ်းမပြုစုရခြင်း မာစတာဘွဲ့
## (Thesis and Non-Thesis in Master degree)

၂၀ ရာစုကာလအတွင်းမှာ ပညာရေးကို အလေးထားလိုက်စားလာကြပြီး တက္ကသိုလ်ပညာရေးတည်ထောင်ရင်း programme မျိုးစုံတီထွင်ဖန်တီးလျက် လူသားတွေဟာ ပညာရေးကို ချဲ့ထွင်လာခဲ့ကြသည်။ ၂၁ ရာစုအတွင်းမှာ ဘွဲ့ဒီဂရီတစ်ခုတည်းဖြင့် ဘဝရပ်တည်ဖို့ လုံလောက်မှုမရှိဟု ခံစားလာကြသည်နှင့်အမျှ ကျောင်းသားများသည် ဘွဲ့လွန်ဒီဂရီများကိုရယူဖို့ ဒုန်းစိုင်းလာကြပြန်သည်။

ဒီဂရီသည် (က) မာစတာဒီဂရီ (ခ) မဟာဝိဇ္ဇာဒဿနိကဘွဲ့ (ဂ) ပါရဂူဘွဲ့ စသည် ဖြင့် အမျိုးမျိုးရှိသည်။ ၎င်းတို့ကို ယခုစာအုပ်တွင် ဗဟုသုတအနေဖြင့် အနည်းငယ်မျှ မိတ်ဆက်သဘောတင်ပြသွားပါမည်။

Master degree များသည် မေဂျာအလိုက် ဘွဲ့နာမည်အမျိုးမျိုးရှိပါသည်။ ၎င်းတို့ကိုအသေးစိတ်မဖော်ပြတော့ပါ။ Master ဘွဲ့များယူကြရာတွင် စာတမ်းပြုစုစရာမလိုဘဲ သင်တန်းတက်ရောက်မှုကို အခြေခံတဲ့(course-study base) masterနဲ့ စာတမ်းပြုစုခြင်း(Master with thesis) master ဟု( ၂)မျိုးရှိပါသည်။ (၁) Master based on course-studyဆိုတာသတ်မှတ်ထားသော သင်တန်းများကို အချိန်မှန်တက်ရောက်ပြီးတော့ ဆရာများ၊ပါမောက္ခများကပေးသော assignment တွေကို တင်ပြ၊ ဆွေးနွေးခြင်းတွေ လုပ်ပြီး course တွေ ပြီးဆုံးသည့်အခါ ဘွဲ့လက်မှတ်များ ရရှိနိုင်သော master ကို ခေါ်ပါသည်။

(၂) Master based Thesis ဆိုတာမိမိယူထားသောမေဂျာနှင့်ပတ်သက်ပြီး ပေးထားသည့် ဆရာများနှင့်နှီးနှောတိုင်ပင်ကာ စာမျက်နှာ (၁၀၀)ထက်ပိုများသည့် စာတမ်းတစ်စောင်ကို သတ်မှတ်သောရက် မကုန်ဆုံးမီရေးသား တင်ပြရပါသည်။ Thesis Paper နှင့် ပတ်သက်ပြီး သတ်မှတ်ထားသော စံနှုန်းများနှင့် ကိုက်ညီမှသာ Master ဘွဲ့သင်ယူပြီးဆုံး အောင်မြင်ကြောင်း ဆရာများမှ လက်မှတ်ရေး ထိုးကြပါသည်။ Course ကို အခြေခံသည့် Master degree သည် (၁)နှစ် ပတ်ဝန်းကျင်ရှိပြီး Master with Thesis ကတော့ (၂)နှစ် ပတ်ဝန်းကျင်ရှိပါသည်။(သတ်မှတ်တဲ့ ခုနှစ်များဟာ တက္ကသိုလ် တစ်ခုနှင့်တခု မတူညီကြပါ။)

Thesis နှင့်ရသော Master ဘွဲ့များသည် အချိန်ကုန်၊ ငွေကုန်၊ ပင်ပန်းပေမယ့်

Ph.D တက်ရောက်လိုရင်ဖြစ်စေ၊ တစ်ချို့လုပ်ငန်းများမှာ ဝင်ရောက်လုပ်ကိုင်လိုတယ် ဆိုလျှင်ဖြစ်စေ အခက်ခဲမရှိပေမယ့် Course ဖြင့်ရသော Master များကို Ph.D ဆက် တတ်မယ်ဆိုလျှင် တချို့တက္ကသိုလ်များက လက်မခံကြပါ။ အရှည်အဝေးဖြင့် ယှဉ်ကြည့်မယ်ဆိုလျှင်လည်း Master with Thesis ရရှိသော သူများသည် သုတေသနနှင့် ပတ်သက်ပြီး ခိုင်မာသော ယုံကြည်ချက်ရှိကြပေမယ့် Course နှင့်ကျောင်းပြီးသော Master ဘွဲ့ကျောင်းသားများသည် အတွေ့အကြုံအရ သိပ်မရှိကြပါ။

ယင်းကြောင့် Master ဘွဲ့ကို တက်ရောက်လိုသော ကျောင်းသားများအနေနှင့် မိမိတက်ရောက်မယ့် Master များမှာ Course နှင့် ဘွဲ့ယူမလား Thesis နှင့် ဘွဲ့ယူမလားဆိုတာကို စဉ်းစားပြီး ကြိုတင်ပြင်ဆင်ထားဖို့ အထူးလိုအပ်ပါသည်။ Thesisနှင့် ဘွဲ့ယူမယ်လို့ စိတ်ကူးထားတယ်ဆိုလျှင် ဆိုင်ရာစာအုပ်များ၊ အချက်အလက်များကို ကြိုတင်စုဆောင်းဖတ်ရှု လေ့လာထားပါမှ Thesis စတင်ရေးသည့်အခါ ပိုပြီးအထောက် အကူပြုပါလိမ့်မည်။

## Thesis, M.Phil and Dissertation အကြောင်း

ပညာရေးနယ်ပယ်မှာ B.A ဘွဲ့ရပြီး နောက်ထပ် ဘွဲ့ဒီဂရီတက်ရောက်ယူလိုသောကျောင်းသားများကို ဘွဲ့လွန်ကျောင်းသား (postgraduate student)လို့ အသိမှတ်ပြုကြပြီး ဘွဲ့ကို ဘွဲ့လွန်ဒီဂရီ (post graduate degree)လို့ အသိမှတ်ပြုထားကြပါသည်။ မဟာဝိဇ္ဇာ (Master)ကျောင်းသားများရေးသောစာတမ်းကို Thesis ဟု ခေါ်ကြပေမယ့် Ph.D ကျောင်းသားများရေးသောစာတမ်းကိုတော့ ပါရဂူကျမ်း (Dissertation) ဟု သတ်မှတ်ကြပါသည်။ (သို့ပေမယ့် တချို့တက္ကသိုလ်တွေမှာ Thesis လို့ဘဲ ၂ခုလုံးအတွက် ရိုးရိုးလေးခေါ်ကြလေ့ရှိပါသည်။ )မာစတာ (Thesis)နှင့် ပါရဂူစာတမ်း (Dissertation)ဟာ သဘောတရားအားဖြင့် တူညီမှုရှိသည်ဟု ဆိုကြပေမယ့် မတူညီတာတွေလည်း အနည်းငယ်ရှိနေပါသည်။

# M.A (Master of Arts) မဟာဝိဇ္ဇာဘွဲ့

Master ဘွဲ့ဆိုသည်မှာ မြန်မာလို မဟာဝိဇ္ဇာဘွဲ့ကိုခေါ်သည်။ ဘာသာရပ်နယ်ပယ်တစ်ခုမှ ကျွမ်းကျင်ပိုင်နိုင်လေ့လာထားပြီးမှရသည့် ဘွဲ့ဖြစ်ပါသည်။ Master ဘွဲ့တိုင်း M.A(Master of Arts) ဘွဲ့တူကြတာ မဟုတ်ပါဘူး။ မေဂျာအလိုက် ဌာန အလိုက် M.Ed/M.B.A စသည် ဘွဲ့တွေကွဲပြားခြားနားပါသည်။ Master ဘွဲ့မှာ သင်တန်းတက်ရောက်ခြင်း၊ စာမေးပွဲများ ဖြေဆိုရခြင်း Assignment တွေလုပ်ရခြင်းတွေ ပါဝင်ပြီး M.A ဘွဲ့ရရှိဖို့အတွက် အချိန် (၁)နှစ် သို့မဟုတ် (၂)နှစ် ယူရပါသည်။ Master degree မှာလည်း Thesis ရေးရတဲ့ဘွဲ့ရှိသလို Thesis မရေးရဘဲ Class Works တွေ Assignment တွေနဲ့ လေ့လာရသည့် အမျိုးအစားဆိုပြီး (၂)ခုရှိပါသည်။ Thesisရေးပြီးယူတဲ့ Master Degree ကတော့ (၂)နှစ်ကာလရှိပြီး M.A without a thesis ကတော့ (၁) နှစ် ဆိုတဲ့ ကာလအတွင်း ပြီးဆုံးနိုင်ပါသည်။ Master without a thesis မှာ သင်တန်း တက်ရပါမည်။ Class work တွေလုပ်ရပါမည်။ Oral presentation တွေလုပ်ပြီး Master ဘွဲ့ယူရပါသည်။ Master With a Thesis ကတော့ ပထမနှစ်ဝက်ကိုတော့ သင်တန်းတွင် ကုန်ဆုံးကြရတာဖြစ်ပြီး နောက်နှစ်တဝက်ကိုတော့ Thesisနဲ့ ကုန်ဆုံးရပါသည်။ Master Without a Thesisတွေအတွက် သိပ်ပြီး ထူးထူးခြားခြား မပြောလိုပေမယ့် Thesis နှင့် ဘွဲ့လိုချင်သူတွေအတွက်တော့ ပြောစရာရှိပါသည်။ Master ကို Thesis နှင့် ဘွဲ့ယူမယ်ဆိုလျှင် Thesis ရေးနည်း Methodology ကို အသေးစိတ်လေ့လာထားရပါမည်။ Methodology ကို သေချာနားလည်ပြီးသူ ဆိုလျှင် Advisor ညှိနှိုင်းပြီး Thesis title ရွေးကာ Thesis ကို စတင်ရေးနိုင်သည်။ (ဒါကတော့ တက္ကသိုလ်တိုင်းတော့ မတူပါဘူး။) M.A ပြီးဆုံးပြီး Ph.D ဘွဲ့ကိုယူလိုသော ကျောင်းသားတွေအနေနှင့် Master ဘွဲ့ယူသည့် အခါ Thesis လုပ်ရင်း ဘွဲ့ယူတာ အကောင်းဆုံးပါ။အဘယ့်ကြောင့်ဆိုသော် Ph.D တန်းမှာ Dissertation က မဖြစ်မနေရေးကြတာများလို့ Master တန်းမှာ Thesis နှင့် ပတ်သက်လို့ အတွေ့အကြုံ ရှိထားမှ အဆင်ပြေနိုင်ပါသည်။

## M.Phil. or Ph.M ဆိုသည်မှာ

M.Phil. ဆိုသည်မှာ မဟာဝိဇ္ဇာဒဿနိကဘွဲ့ (Master of Philosophy)ကို ခေါ်သည်။ ယခုဘွဲ့ကို များသောအားဖြင့် Thesis မဲ့ (A Master without thesis) Master ဘွဲ့ရပြီး Ph.D ဆက်တက်ချင်သော ကျောင်းသားများအနေနှင့် တက်ရောက် သင်ယူ ကြတာဖြစ်ပါသည်။ (ပါရဂူဘွဲ့ကို ယူချင်သည်ဖြစ်စေ၊ မယူချင်သည်ဖြစ်စေ တက်ရောက် နိုင်ပါသည်။) Ph.D တက်မည်ဆိုလျှင် Research ကို ကောင်းကောင်းလုပ် ဖူးရပါသည်။ အကြောင်းကတော့ Ph.D တန်းမှာ ကိုယ်ပိုင်သုတေသန ရှာဖွေမှုစစ်စစ်နှင့် ကျမ်းပြုစု ရတာဖြစ်လို့ သုတေသနဆိုင်ရာ အတွေ့အကြုံမရှိလျှင် အဆင်မပြေနိုင်ပါ။ Research-based or Thesis-based နှင့် မာစတာဘွဲ့ယူထားသော ကျောင်းသားတွေ အနေနှင့် ဒီမဟာဝိဇ္ဇာဒဿနိကဘွဲ့ (Master of Philosophy) ကို တက်ရောက် သင်ကြားစရာတော့ မလိုအပ်ပါ။ M.Phil ဘွဲ့မှာ research သက်သက်ကိုသာ ဦးစားပေးလေ့လာရပါသည်။ ကာလအားဖြင့်တော့(၂)နှစ် ရှိသည်။ မာစတာဘွဲ့အတွက် စာရွက်သည် Ph.D လောက် တော့ မများသလို၊ အရည်အသွေးအားဖြင့်လည်း Ph.D စာတမ်းလောက် မရှိပါ။ သို့ပေမယ့် ရိုးရိုးမာစတာဘွဲ့ထက် Senior ကျတယ်လို့ ပြောလို့ရပါသည်။

## Ph.D (Doctor of Philosophy) ပါရဂူဘွဲ့

Ph.D ဘွဲ့ဆိုသည်မှာ Master degree ပြီးဆုံးသော ကျောင်းသားတွေဆက်လက် လေ့လာသင်ယူရင်းယူနိုင်သည့် ပညာရေးနယ်ပယ်ထဲက အမြင့်ဆုံးဘွဲ့တစ်ခုဖြစ်သည်။ Ph.D တန်းသည် သူများရေးထားသော သတင်းအချက်အလက်များကို စုဆောင်း လေ့လာအဖြေရှာရင်း သုတေသနပြုရသော အမျိုးအစားမဟုတ်တော့ဘဲ လက်တွေ့ တွေ့ရှိတဲ့ အကြောင်းအရာများ ကိုယ်တိုင်ရှာဖွေတွေ့ရှိချက်များနှင့် ပြုစုတင်ပြပြီး ဘွဲ့ယူရတာဖြစ်တယ်။

Master ဘွဲ့ရကျောင်းသားတော်တော်များများဟာ Ph.D ဘွဲ့ကို ဆက်လက် မယူကြတော့ပါ။ အကြောင်းကတော့ Ph.D ဘွဲ့ရဖို့အတွက် အချိန်သတ်မှတ်ချက်သည်

အနည်းဆုံး (၄) နှစ်မှသည် (၈) နှစ်အတိုင်းတာရှိပြီး ကာလရှည်လျားတာကြောင့်လည်း ဖြစ်သလို ပညာရေးနယ်ပယ်၏ အခက်ခဲဆုံးသော ဘွဲ့လည်းဖြစ်တာကြောင့်လည်း ဖြစ်သည်။ (၄)နှစ် လေ့လာသင်ယူမှုအတွင်း ပထမ (၂) နှစ်ကာလသည် သင်တန်းတွင် ကုန်ဆုံးရတာဖြစ်ပြီး ကျန်နှစ်ကာလများအတွင်းမှာတော့ Dissertation မှာပဲ ကုန်လွန်ကြ ရတာဖြစ်သည်။

အလုပ်လုပ်ရင်း သက်တောင့်သက်သာ အချိန်ပိုင်းအနေနှင့် လေ့လာပြီးယူတဲ့ ကျောင်းသားတွေအတွက်တော့ Ph.D ဟာ (၈) နှစ်ကာလရှိသည်။ (၈) နှစ်ကာလနှင့် လေ့လာသင်ယူမယ်ဆိုလျှင် ပထမ (၃)နှစ်ဟာ သင်တန်းတွင် ကုန်ဆုံးရမယ့်နှစ်များ ဖြစ်ပြီး ကျန်အချိန်များကတော့ Dissertation မှာ ကုန်လွန်ရမယ့် ကာလဖြစ်သည်။ (University တိုင်းတော့ သတ်မှတ်ချက် မတူညီကြပါ။)

## Thesis နှင့် Dissertation ကွဲပြားချက်

(၁) Thesis သည် အစောပိုင်းရှိနေပြီးဖြစ်သော သီအိုရီများကိုအခြေခံပြီး ရလာဒ်တစ်ခုကို တင်ပြဆွေးနွေး အဖြေရှာရသော report တစ်ခုသာဖြစ်ပြီး Ph.D စာတမ်းကတော့ ကိုယ်တိုင်စူးစမ်းလေ့လာ (New discoveries) တစ်ခုကို Dissertation ရေးသား ပြုစုတင်ပြရတာ ဖြစ်ပါသည်။

(၂) Thesis တစ်ခုပြီးဆုံးဖို့ အချိန်အနည်းငယ်သာလိုပေမယ့် Dissertation ကတော့ အချိန်အများကြီးပေးလုပ်ရပါသည်။

(၃) Thesis မှာ Research work ကို အခြေခံထားသော hypothesis တစ်ခုကို ထည့်သွင်းရေးသားရမှာ ဖြစ်ပြီး Dissertation မှာတော့ Conclusion ကို ထိထိရောက်ရောက်ရေးသားဖို့ ရှာဖွေတွေ့ရှိထားသော တွေ့ရှိချက်ဆိုင်ရာ အသိပညာဗဟုသုတများကို ထည့်သွင်းရေးသား ရပါသည်။

(၄) Thesis မှာ စာဖတ်သူပရိတ်သတ်များအား မိမိ၏ရပ်တည်ချက်ကို ပြဖို့ အတွက် primary argument ကို focus လုပ်ရေးသားရမှာဖြစ်ပြီး Dissertation မှာတော့ background work ကို focus ထားရေးသားရမှာ ဖြစ်ပါသည်။

(၅) Thesis သည် academic ဆန်တယ်ဆိုပေမယ့် Dissertation က Thesis ထက်ပိုပြီး academic ဆန်ပါသည်။

(၆) Thesis မှာပါသော Data collection ဟာ Hypothetical analysis of cotent ကို အခြေခံထားရတာဖြစ်ပြီး Dissertation ဟာ Original research ကို အခြေခံထားတဲ့ Theory နဲ့ argumentation (၂)ခု ပေါင်းစပ်ပါဝင်ပြီး ရေးသားရတာဖြစ်ပါသည်။

## သုတေသနဆိုသည်မှာ

သုတေသန (Research) ဆိုတာ အကြောင်းအရာတစ်ခုနှင့်ပတ်သက်လို့ သတင်းအချက်အလက်များ၊ အတွေးခေါ်အယူအဆသစ်များအတွက် စနစ်တကျ၊ တွေးခေါ်ပြီး ပြုလုပ်ရသော လုပ်ငန်းတစ်ခုဖြစ်ပါသည်။

တစ်နည်းပြောရရင် သုတေသန (Research) ဆိုတာ အကြောင်းအရာတစ်ခုနှင့် ပတ်သက်လို့ ဗဟုသုတ၊ သတင်းအချက်အလက်များ ရှာဖွေခြင်းကို ရည်ညွှန်းထားတာပါ။ မသိရသေးသော အကြောင်းအရာ (သို့) ဖုံးကွယ်ထားသော အမှန်တရားတခုကို သိရှိအောင်ရှာဖွေဖော်ထုတ်၊ စုစည်းတင်ပြခြင်းမျိုးလည်း ဖြစ်ပါသည်။ သုတေသန (Research) လုပ်ငန်းသည် Academic လောကဖြစ်သော တက္ကသိုလ် ဌာနများနှင့်သာ ရင်းနှီးကျွမ်းဝင်နေတာသာမဟုတ် တော်တော်များများသော အသက်မွေးဝမ်းကျောင်း လုပ်ငန်းတွေမှာ လုပ်ဆောင်ကြပါသည်။ ပြီးတော့ သုတေသန (Research) ကို သိပ္ပံနဲ့ နည်းပညာများအတွက်သာ ကန့်သတ်ထားတာ မဟုတ်ပါ။ သုတေသနကို Language, Arts, Psychology, Histroy, Politics စသောဘာသာရပ်တွေမှာလည်း ပြုလုပ် ဆောင်ရွက်ကြပါသည်။

ပြီးတော့ ကျွန်တော်တို့ဟာနေ့စဉ် ဘဝမှာ ရှောင်လွဲမရတဲ့ သုတေသနလုပ်ငန်းစဉ်များ၊ မဖြစ်မနေလုပ်ရမယ့် သုတေသန လုပ်ငန်းများနှင့် ကြုံတွေ့ နေကြရတာလည်း ဖြစ်ပါသည်။ သုတေသန (Research) ကို ကိုယ်ပိုင်အတွေ့အကြုံ၊ စောင့်ကြည့်လေ့လာမှု၊ ဝေဖန်ဆန်းစစ်မှု၊ နှိုင်းယှဉ် ကြည့်ရှုသုံးသပ်မှု၊ ကြောင်းကျိုးဆီလျော်တွေးခေါ်တတ်မှု စသောလုပ်ဆောင်မှု အကူညီနှင့်သာ ပြီးဆုံးအောင် ပြုလုပ်ကြရပါသည်။ လက်ရှိ ကျွန်တော်တို့ နေထိုင်နေသော ပတ်ဝန်းကျင်ထဲက အသိပညာဗဟုသုတများဟာ

သုတေသနပြုလုပ်ထားခြင်း၏ အကျိုးရလဒ်များပင် ဖြစ်ပါသည်။

ဥပမာ –

"ဆေးလိပ်သောက်ခြင်းဟာ ကျန်းမာရေးအတွက် အန္တရာယ်ဖြစ်စေမှု၊ ဘိန်းဖြူဟာ လူကိုစွဲလမ်းစေမှု၊ ပျက်စီးဆုံးရှုံးစေမှု၊ ငှက်ဖျားရောဂါသည် Proto-zoan Plasmodium ပိုင်းရပ်ကြောင့်ဖြစ်တယ်ဆိုတာရယ်၊ ရေမှာ $H_2O$ ပါဝင်တယ်ဆိုတာရယ်၊ AIDS ရောဂါဟာ HIV ပိုင်းရပ်ကြောင့်ဆိုတာတွေပေါ့။" ဒီအချက်အလက်တွေဘယ်ကများ၊ ဘယ်လိုများ ကျွန်တော်တို့ရခဲ့တယ်လို့ ထင်ပါသလဲ။ ဒါတွေအားလုံးဟာ သုတေသနပြု လုပ်ဆောင်ရွက်ခြင်းမှသာ ရရှိခဲ့ကြတာပါ။ သတိထားမိလာကြတာပါ။ ပိုပြီးတိတိကျကျပြောရရင် သုတေသနပြုလုပ်ထားရှိမှုကြောင့် လက်ရှိဖြစ်ပျက်နေဆဲ၊ ဖြစ်ပျက်နေပြီး အရာများကိုသာမဟုတ် အနာဂါတ်ဖြစ်ပျက်လာမယ့် အကျိုးဆက်များ၊ ကြောင်းကျိုးဆက်နွယ်မှုများကို ကြိုတင်သိရှိနိုင်ကြတာဖြစ်ပါသည်။

JOHN W.Best အဆိုအရ "သုတေသနပြုခြင်းဆိုတာ အဖြစ်မှန်တရားများကို ရှာဖွေဖော်ထုတ်ပြသခြင်းဖြင့် သတိမထားသော၊ အလေးမထားသော နယ်ပယ်များကို သတိထားမှုများ၊ အလေးထားမှုများ ဖြစ်ပေါ်လာအောင်ပြုလုပ်တဲ့ လုပ်ငန်းကြီးတစ်ခုဖြစ်ပါတယ်"။ သုတေသနပြုလုပ်မှုကြောင့် လိုအပ်နေသော၊အားနည်း နေသော၊ ပိုလျှံနေသော၊ ဖုံးကွယ်နေသောဖြစ်ရပ်၊ အကြောင်းအရာတို့ကို သိရှိနိုင်ပြီး ပိုမိုတိုးတက်သောကဏ္ဍတစ်ခု၊ ထုတ်ကုန်တစ်ခုဖြစ်အောင် ဦးတည်စေပါသည်။

## သက်သေအခြေပြု သုတေသန (Evidence based research)

သုတေသနပြုလုပ်နည်းသည် သစ်လွင်သောအကြောင်းအရာ တစ်ခုကိုဖော်ထုတ်ခြင်း သုတေသနကို Pure Research / Basic Research လို့ခေါ်ကြပြီး ကြုံတွေ့ရသော ပြဿနာကို ဖြေရှင်းဖို့ ပြုလုပ်သည့် သုတေသနကို " လက်တွေ့အသုံးချသုတေသန (Applied Research) "လို့ ခေါ်ကြသည်။

"လက်တွေ့အသုံးချသုတေသန" မှာလည်း ချဉ်းကပ်မှုစနစ်ကိုမူတည်ပြီး အမျိုးအစား (၃)ခု ကွဲပြားပါသေးသည်။ (၁)အရေအတွက်စံထားသုတေသန (Quan-titative research) (၂) အရည်အသွေးစံထား သုတေသန (Qualitative research)၊ (၃) အထက်ပါသုတေသန (၂)ခုလုံး ပါဝင်သည့် ရောပြွန်းသုတေသန (Mixed

Research) အထက်ပါ သုတေသနအမျိုးအစား ကွဲပြားသည့်အနက် ဦးတည်ချက် လုပ်ငန်းကို အစွဲပြုပြီး အမည်အမျိုးမျိုးရှိသည်။ အသိုင်းဝိုင်းကိုအခြေပြု ပြုလုပ်ရသည့် သုတေသနကို အသိုင်းဝိုင်း အခြေပြုသုတေသန (Community-Based Research)၊ အင်တာနက်ကို အခြေခံပြီး ပြုလုပ်ရသော အင်တာနက်အခြေပြုသုတေသန (Web-based research or Internet-based research)၊ အကြောင်းပြချက် သက်သေ အထောက်ထားများကို အခြေပြုသော သုတေသန (Evidence-based-research) စသည့်ဆိုင်ရာ ရည်ရွယ်ချက်များကို အခြေပြုပြီး ပြုလုပ်ရသော သုတေသနများစွာရှိသည်။ ယခု စာအုပ်မှာ သမိုင်းနှင့် ဘာသာရေးဆိုင်ရာ သုတေသနများကိုရေးသား ဖော်ပြထား ပေမယ့် သက်သေအခြေပြု သုတေသန (Evidence-based-research) ဟုခေါ်ဆိုသော အဆိုပြုချက်ဆိုင်ရာ သုတေသန (Argumentative research) ကိုသာ နာမည်ပေးထားပါသည်။ သက်သေအခြေပြု သုတေသနဆိုသည်မှာ သက်သေအထောက်ထားများကို အခြေပြုပြီး ပြုလုပ်ရသော သုတေသနကို သက်သေအခြေပြုသုတေသန (Evidence-based Rsearch or EBR) လို့ ခေါ်ဆိုသည်။ သက်သေအခြေပြုကျင့်သုံးမှုများကို သက်သေအခြေပြု လက်တွေ့ကျင့်သုံးမှု (Evidence-based practice or EBP) လို့ခေါ်သည်။ များသောအားဖြင့် သက်သေအခြေပြု သုတေသနကို ဆေးဝါးဆိုင်ရာနယ်ပယ်၊ သမိုင်းဆိုင်ရာနယ်ပယ်များ၊ ဘာသာရေးဆိုင်ရာ နယ်ပယ်များမှာ အသုံးပြုကြသည်။ ဤသုတေသနမှာ ယခင်ဖြစ်ပျက်ခဲ့ပြီးသော အဖြစ်အပျက်၊ အကြောင်းအရာများ၏ အားနည်းချက်၊ အားသာချက်၊ လိုအပ်ချက် စသည်များကို သက်သေ၊ အထောက်အထား များအား အခြေပြုပြီးတင်ပြရတာ ဖြစ်ပါသည်။

သက်သေအထောက်ထားများကို အခြေပြုသောသုတေသနမှာ မိမိ၏အဆိုပြု ချက် (Arguments) များကို ထင်သာမြင်သာသော အကြောင်းပြချက်၊ သက်သေများဖြင့် ပံ့ပိုးထောက်ပံ့ရင်း ခိုင်မာအောင်၊ ပရိတ်သတ် လက်ခံလာအောင် တင်ပြဆွေးနွေးရပါ သည်။ ဤသုတေသနသည် စာရင်းအင်းပညာဆိုင်ရာ ကိန်းဂဏန်းများမပါရှိဘဲ မိမိရရှိလာသော ဒေတာအချက်အလက်များ၏ အရည်အသွေးဖြင့်သာ အားကောင်း သုတေသန၊ အားပျော့သုတေသနအဖြစ် သတ်မှတ်နိုင်သောအရည်အသွေးစံထား သုတေသန (Qualitative research) အမျိုးအစားလည်းဖြစ်ပါသည်။

# စာတမ်းဖွဲ့စည်းပုံမူကြမ်း
# Thesis Title

i. **Part** (Introduction)
Background to the study
Research problem statement
Research question
Objective c
Thesis statement (claim/ hypothesis)
scope and Limitation
Research Methodology
Organization

ii. **Part (Body)**
Argument (reason/ evidence/ warrant/ acknowledgement and response)

iii. **Part (Conclusion)**
Discussion and Conclusion
Further suggestion
Reference list/ Bibliography

## စာတမ်းအတွက် ကြိုတင်ပြင်ဆင်ခြင်း

သုတေသနစာတမ်းပြုစုမည်ဟု စိတ်ထဲခံယူထားပြီဆိုလျှင် မိမိစိတ်ဝင်စားသော သုတေသနပြုလုပ်လိုသော နယ်ပယ်နှင့်ဆက်နွယ်မှုရှိသော သုတေသနစာတမ်းများ၊ စာအုပ်များ၊ မဂ္ဂဇင်း၊ ဆောင်းပါး၊ ဂျာနယ် စသည်များကို စုဆောင်းဖို့ အစပြုရပါမည်။ ၎င်းနယ်ပယ်မှ စာအုပ်များကို အချိန်ပေးပြီး များများဖတ်ရပါမည်။ စာအုပ်ကောင်းများ၊ စိတ်ဝင်စားစရာ၊ ခိုင်မာသောအထောက်အထား၊ အချက်အလက်များ စနစ်တကျပါသော စာအုပ်များကို သေချာသိမ်းဆည်းထားရပါမည်။ စာအုပ်တိုင်းကို အစမှအဆုံးထိ အချိန်ပေးဖတ်စရာတော့မလိုအပ်၊ Scanning, Skimming ဖတ်နည်းဖြင့် ဖတ်ရမည်၊ များသောအားဖြင့် စာရေးသူများဟာ ၎င်းတို့စာအုပ်မှာ ရေးသားမည့် အကြောင်းအရာများကို နိဒါန်းများ၊ စာအုပ်အကျဉ်းချုံ့ဖော်ပြချက်များတွင် ဆွေးနွေးဖော်ပြထားလေ့ရှိပါတယ်။၎င်းတို့ရဲ့ ပြဿနာဟာ ဘာလဲဆိုတာကြည့်ပါ။Thesis statement ကိုဖတ်ပါ။ Findings များကိုဖတ်ပါ။ Further research လုပ်လို့ရနိုင်တဲ့ အကြောင်းအရာများကို ဆွေးနွေး၊ အကြံပေးထားတဲ့ Discussion and Conclusion ကို ဖတ်ပါ။ မိမိစိတ်ဝင်စားတဲ့ နယ်ပယ်များနဲ့ ပတ်သက်လို့ စာအုပ်၊ ဆောင်းပါး၊ စာတမ်းတို့ကို ကြိုတင်ရှာဖွေဖတ်ရှုခြင်းဟာ မိမိတို့ရဲ့ စာတမ်းခေါင်းစဉ် ရွေးချယ်မှုမှာ များစွာအထောက်ကူပြုပါလိမ့်မယ်။

## စာတမ်းခေါင်းစဉ်ရွေးချယ်ခြင်း

### (၁) စိတ်ဝင်စားမှုနယ်ပယ်မှသည် ယေဘုယျခေါင်းစဉ်တစ်ခုရွေးရခြင်း။

သုတေသနစာတမ်းရေးတဲ့အခါ ခေါင်းစဉ်ရွေးချယ်ခြင်းဟာ သုတေသနစာတမ်းတစ်ခုအတွက် အခရာအကျဆုံးဖြစ်တဲ့ လုပ်ငန်းစဉ်တစ်ခုဖြစ်ပါတယ်။ ခေါင်းစဉ်ရွေးချယ်ခြင်းဟာ သုတေသီတစ်ယောက်ကို ဘာတွေရေးသားမလဲ၊ ဘာတွေကို ရှာဖွေရမလဲဆိုတာနဲ့ ပတ်သက်လို့ နယ်ပယ်ပိုင်းခြား သတ်မှတ်လိုက်ခြင်းပင်ဖြစ်ပါတယ်။ သို့ပေမယ့် ခေါင်းစဉ်တစ်ခုရွေးချယ်မှုဟာ ထင်သလောက် လွယ်ကူသည်တော့ မဟုတ်လှပါ။ မိမိရွေးချယ်မယ့် သုတေသနခေါင်းစဉ်ဟာ မိမိတို့စိတ်ဝင်စားမှုရှိတဲ့ နယ်ပယ်များမှ ပေါက်ဖွားလာတာမျိုးဖြစ်ရပါမယ်။ စိတ်ဝင်စားမှုဆိုရာဝယ် မိမိတို့ဟာ စိတ်ဝင်စားတဲ့ နယ်ပယ်မြောက်များစွာ ရှိကောင်း ရှိနေမည်။ ဗဟုသုတရှိပြီး စာပေနဲ့ ရင်းနှီးကျွမ်းဝင်သူတို့

အနေနဲ့ ရွေးချယ်စရာများလွန်းလို့ ခေါင်းစဉ်တခုဆိုတာဟာ ပိုပြီးခက်ခဲနေမှာတော့ အမှန်ပါ။ **ဥပမာ**–လူတစ်ယောက်ဟာ သမိုင်းကို စိတ်ဝင်စားတယ် ဆိုပါစို့။ သမိုင်းမှာလည်း ခေတ်အလိုက် စိတ်ဝင်စားစရာကောင်းတဲ့လက္ခဏာများနဲ့ ပြည့်နှက်နေကြသည်ချည်း ဖြစ်ပါတယ်။ မြန်မာနိုင်ငံထဲက ဘုရင်အုပ်ချုပ်ခဲ့သော သမိုင်းများကို ပြန်ကြည့်ရင် ပုဂံခေတ်သမိုင်း၊ အင်းဝခေတ်သမိုင်း၊ အမရပူရခေတ်သမိုင်း၊ မွန်ဘုရင်များသမိုင်း၊ ရခိုင်ဘုရင်များသမိုင်း၊ စီးပွားရေးသမိုင်းနှင့် ပတ်သက်လို့ လေ့လာမယ်ဆိုလျှင်လည်း မြန်မာ့စီးပွားကုန်သည်မှုသမိုင်း၊ ရခိုင်စီးပွားကုန်သည်မှုသမိုင်း စသည်ဖြင့်ရှိပြန်သည်။ အုပ်ချုပ်မှုနှင့် နိုင်ငံတိုးတက်မှုသမိုင်းကို လေ့လာကြည့်မယ် ဆိုလျှင်လည်း မြန်မာခေတ်အဆက်ဆက် အုပ်ချုပ်မှုနှင့်နိုင်ငံတိုးတက်မှုသမိုင်း၊ ထိုနည်းတူ ရခိုင်၊ မွန်၊ ရှမ်း၊ ကချင်နှင့် အခြားတိုင်းရင်းသားတို့၏ အုပ်ချုပ်မှုနှင့် ၎င်းတို့၏ ဒေသဖွံ့ဖြိုးမှုသမိုင်းတွေရှိပါသေးသည်။ အခြားကျန်ရှိသောအကြောင်းအရာများမှာ နိုင်ငံရေး၊ လူမှု ဆက်ဆံရေး၊ ကျန်းမာရေး၊ ပညာရေး၊ ဘာသာရေးနှင့် လူ့အသိုင်းအဝိုင်း ထဲက လူမှုဆက်ဆံရေးဆက်နွယ်မှု၊ ဘုရင်ခေတ်လွန် ကိုလိုနီဘဝမှ မြန်မာနိုင်ငံ၏ အခန်းကဏ္ဍ ပေါင်းစုံ၊ လွတ်လပ်ရေးရပြီးသည်မှစပြီး ယခုချိန်ထိ မြန်မာနိုင်ငံ၏ စီးပွားရေး၊ လူမှုရေး၊ စိုက်ပျိုးရေး၊ အခန်းကဏ္ဍစသည့် နယ်ပယ်ပေါင်းများစွာလည်း ရှိပါသေးသည်။ ၎င်းတို့ထဲမှမည်သည့် အခန်းကဏ္ဍ၊ မည်သည့် အကြောင်းအရာကို ပိုပြီးစိတ်ဝင်စားမှုရှိသလဲဆိုသည်ကို မိမိတို့ကိုယ်တိုင် ပြန်လှန်မေးကြည့်ဖို့ လိုအပ်ပေလိမ့်မည်။

ယေဘုယျခေါင်းစဉ်ဆိုသည်မှာ ၎င်းခေါင်းစဉ်၏ အောက်မှာလေ့လာစရာမြောက်များစွာပါရှိနေပြီး သတ်မှတ်ထားသောအချိန်ကာလအတွင်း ပြီးဆုံးရမည့် စာတမ်းတစ်စောင်ပြုလုပ်သူများအတွက် အလွန်နယ်ပယ်ကျယ်လွန်းပါသည်။ အကြောင်းအရာတစ်ခုနှင့် ပတ်သက်လို့ တိတိကျကျပြောထားတာမဟုတ်လို့ စာဖတ် သူများအတွက်ကောင်းမွန်တဲ့ ကောက်ချက်ချမှုအဖြစ်သို့ ရောက်အောင်ပြောဆိုဖို့ရာ မဖြစ်နိုင်တဲ့ခေါင်းစဉ်တစ်ခုလည်း ဖြစ်ပါသည်။ မည်သို့ဆိုစေကာမူ သုတေသနပြုမယ့် သူသည်မိမိအများဆုံး စိတ်ဝင်စားသောနယ်ပယ်တစ်ခု၏ အကြောင်းကိုယေဘုယျ ခေါင်းစဉ်တစ်ခုရေးချခြင်းဖြင့် စတင်ရမှာဖြစ်ပါသည်။ အောက်ပါ ယေဘုယျခေါင်းစဉ်များကို ကြည့်ပါ။

**နမူနာပုံစံများ**

၁။ မြန်မာပြည်တွင်း စီးပွားကုန်သည်မှုအကြောင်းကို လေ့လာခြင်း။ (ဘယ်ခုနှစ်မှ စလေ့လာမလဲ ?)

၂။ မြန်မာ့စိုက်ပျိုးရေးနှင့် ထုတ်ကုန်အကြောင်းကို လေ့လာခြင်း။ (ဘယ်ခုနှစ်မှ စလေ့လာမလဲ ?)

၃။ မြန်မာနိုင်ငံတွင်း ဘာသာရေးအကြောင်းကို လေ့လာကြည့်ခြင်း။ (ဗုဒ္ဓဘာသာ၊ ခရစ်ယာန်၊ အစ္စလာမ်၊ ဟိန္ဒူဘာသာ၊ ဘာသာမဲ့စသည်)

၄။ မြန်မာနိုင်ငံ ပညာရေးအကြောင်းကို ဆန်းစစ်ဝေဖန်ကြည့်ခြင်း။ (ဘုန်းတော်ကြီးသင်ပညာရေး၊ ကျောင်းပညာရေးစသည် ဘယ်ချိန်ကစပြီး ဆွေးနွေးတင်ပြမလဲ)

၅။ လွတ်လပ်ရေးအလွန် မြန်မာပြည်တွင်း နိုင်ငံရေးလှုပ်ရှားမှုများအကြောင်းကို လေ့လာခြင်း။ (ကျောင်းသားလှုပ်ရှားမှု၊ တောတွင်းလက်နက်ကိုင်လှုပ်ရှားမှု၊ အလံနီ၊ အလံဖြူ၊ ကရင်၊ ကချင်၊ ကိုးကန့်၊ ဝ၊ ရခိုင်စသည်)

**ယင်းကြောင့်** –

၁။ ခေါင်းစဉ်တစ်ခုရွေးချယ်သည့်အခါ အကြံပေးဆရာများနှင့်တိုင်ပင်ဆွေးနွေးပါ။

၂။ ယခင် စာတမ်းပြုဖူးသောစီနီယာကျောင်းသားများနဲ့ တိုင်ပင်ဆွေးနွေးပါ။

၃။ မိမိစိတ်ဝင်ဆုံးသော နယ်ပယ်၊ ခေတ်ကာလတို့နှင့် ပတ်သက်သောစာအုပ်၊ စာတမ်းများကို များများဖတ်ပါ။

## (၂) ယေဘုယျခေါင်းစဉ်မှသည် စာတမ်းခေါင်းစဉ်ဆီသို့

သုတေသနပြုလုပ်မယ့် မိမိတို့အနေနှင့်အထူးစိတ်ဝင်စားသော နယ်ပယ်တစ်ခုမှ ရွေးချယ်လိုက်သော ယေဘုယျခေါင်းစဉ်ဟာ သုတေသနပြုလုပ်မယ့် မိမိတို့အဖို့ သတ်မှတ်ချက်ပေးထားသောအချိန် (deadline) နှင့် မကိုက်ညီ၊ ကျယ်ပြန့်လွန်းနေတာမို့ ၎င်းခေါင်းစဉ်ကို မကျဉ်းလွန်း၊မကျယ်လွန်းတဲ့ ခေါင်းစဉ်တစ်ခုဖြစ်အောင် အကျဉ်းချုံ့ (Narrowing down the selected topic) ကြည့်ဖို့လိုအပ်ပါလိမ့်မည်။

**တိကျပီပြင်သောခေါင်းစဉ်တခု၏အင်္ဂါရပ်များ**

မိမိတို့ပြုစုမယ့် သုတေသန စာတမ်းခေါင်းစဉ်သည်–

၁။ ရှင်းလင်းနေရမည် (အဓိပ္ပါယ် နှစ်ခွဖြစ်နေတာမျိုး ဖြစ်မနေရ။)

၂။ သတ်မှတ်သည့် အချိန်ကာလအတွင်း ပြီးဆုံးနိုင်သောခေါင်းစဉ်မျိုးဖြစ်ရမည်။

၃။ ငွေကြေးပမာဏအားဖြင့် (မိမိအတွက်)သင့်လျော်မှု ရှိနေရမည်။

၄။ မကျဉ်းလွန်း၊ မကျယ်လွန်းသောခေါင်းစဉ်မျိုး ဖြစ်နေရမည်။

မိမိရွေးချယ်လိုက်သောခေါင်းစဉ်သည် သုတေသနပြုရမယ့်နယ်ပယ်တွေ များပြားနေတယ်ဆိုရင်လဲ (သတ်မှတ်ထားတဲ့အချိန်၊ ကုန်ကျမည့်ငွေကြေး စသည်တို့ကြောင့်) ရေးသားလေ့လာစရာများလွန်းလို့ မနိုင်မနင်းဖြစ်တတ်ပါတယ်။ တအားကျဉ်းလွန်း နေရင်လည်း ရေးစရာနည်းပါးလွန်းတာကြောင့် အဆင်မပြေနိုင်ပါ။

ယင်းကြောင့် မိမိစိတ်ဝင်စားပြီး ရွေးချယ်ထားသော ယေဘုယျခေါင်းစဉ်ကို နယ်ပယ်ကျဉ်းအောင် ထပ်ပြီးလုပ်ကြည့်ဖို့ လိုအပ်ပါသည်။

**ဥပမာ–**

"မိမိတို့သည် မြန်မာဘုရင်များ၏ အုပ်ချုပ်ပုံစနစ်များကို လေ့လာခြင်း" ခေါင်းစဉ်ကို ရွေးချယ်ထားတယ်ဆိုပါစို့။ ယခုခေါင်းစဉ်သည် အရမ်းကျယ်ပြန့်လွန်းပါသည်။ မြန်မာဘုရင်များဆိုသည်မှာ မြန်မာဘုရင်များအုပ်ချုပ်ခဲ့သော (ပုဂံခေတ်၊ အင်းဝခေတ်၊ အမရပူရခေတ်)အားလုံးမှ ဘုရင်များ၏အုပ်ချုပ်မှု စနစ်များကို ဆိုလိုခြင်းမျိုးဖြစ်ပါသည်။ ယင်းခေတ်များမှ ဘုရင်အားလုံးတို့၏ အုပ်ချုပ်မှုစနစ်အားလုံးကို သုတေသနပြုဖို့ဆိုသည်မှာ သတ်မှတ်ချိန်နှင့် မဖြစ်နိုင်သော ခေါင်းစဉ်တစ်ခု ဖြစ်နေပါသည်။ ယင်းကြောင့် မည်သည့်ခေတ် မြန်မာဘုရင်များ၏ အုပ်ချုပ်မှုကိုပိုပြီး စိတ်ဝင်စားသလဲဆိုတာကို ထပ်ပြီးစဉ်းစားပါ။ (ဘယ်ခေတ်က ဘုရင်အုပ်ချုပ်မှုမျိုးလဲ) တကယ်လို့ ပုဂံခေတ်ဘုရင်များ၏ အုပ်ချုပ်မှုကို ပိုပြီး စိတ်ဝင်စားတယ်ဆိုပါစို့။ ယင်းသည် လေ့လာမှု နယ်ပယ်အနေနှင့် အဆင်ပြေလောက်သောခေါင်းစဉ်တစ်ခုဖြစ်ပါသည်။ (မကျဉ်းလွန်း၊ မကျယ်လွန်းတဲ့ ခေါင်းစဉ်တစ်ခုပါ။)

**တိကျပြီးသတ်မှတ်ချိန်အတွင်း ပြီးဆုံးရန်ဖြစ်နိုင်သောခေါင်းစဉ်များ**

၁။ ပုဂံခေတ် (အင်းဝခေတ်၊ အမရပူရခေတ်) ဗုဒ္ဓဘာသာအကြောင်းကို လေ့လာကြည့်ခြင်း။

၂။ မြန်မာပြည်တွင်း စီးပွားကုန်သွယ်မှုအကြောင်းကို လေ့လာခြင်း။ (၁၉၉၉ မှ ၂၀၀၁ ထိ)

၃။ မြန်မာ့စိုက်ပျိုးရေးနှင့် ထုတ်ကုန်အကြောင်းကို လေ့လာခြင်း။ (၂၀၁၅ မှ ၂၀၁၇ ခုထိ)

၄။ ပုဂံခေတ် ကျွန်စနစ်များအကြောင်းကိုလေ့လာကြည့်ခြင်း။

၅။ ဘုန်းတော်ကြီးသင်ပညာရေးအကြောင်းကို သုံးသပ်လေ့လာခြင်း။

ထို့အပြင် အောက်ပါဆက်နွယ်မှုပြ ခေါင်းစဉ်တွေကိုလည်း ရွေးချယ်နိုင်ပါသည်။

**အကြောင်းအရာ(၂)ခုတို့ ဆက်နွယ်မှုပြခေါင်းစဉ် ဥပမာများ**

၁။ ပုဂံခေတ်မှ ဘာသာရေးနှင့်လူမှုဆက်ဆံရေးဆက်နွယ်မှုကို သုံးသပ်လေ့လာခြင်း။

၂။ ပထမမြောက်ဦးခေတ် ပညာရေးနှင့် စီးပွားရေး ဆက်နွယ်မှုအကြောင်းကို လေ့လာကြည့်ခြင်း။

၃။ ဘုန်းတော်ကျောင်းပညာရေးနှင့်ပညာရေးနှင့် စာရိတ္တမြင့်မားမှု၊ ဆက်နွယ်မှုအကြောင်းကိုလေ့လာကြည့်ခြင်း။ (၁၉၈၀ခုနှစ် မှ ၁၉၉၀ခုနှစ်ထိ)

၄။ စီးပွားရေးနှင့် ပညာရေးဆက်နွယ်မှုအကြောင်းကို လေ့လာကြည့်ခြင်း။ (၁၉၀၀မှ ၁၉၉၉ခုထိ) စသည့် ဆက်နွယ်မှုပြ ခေါင်းစဉ်များဖြင့်လည်း လေ့လာမှုပြုလုပ်နိုင်ပါသည်။

# သုတေသနပြုထိုက်သော ပြဿနာကိုတည်ဆောက်ခြင်း (Formulating researchable problem)

ကျွန်ုပ်တို့ လူမှုပတ်ဝန်းကျင်၏အရပ်မျက်နှာတိုင်းမှာ ပြဿနာများ ခိုအောင်းနေကြသည်ချည်းပင်။ ဘေးပတ်ဝန်းကျင်ကိုတချက်လှည့်ကြည့်လိုက်လျှင်ပင် တွေ့မြင်နိုင်သည်။

ဥပမာ –

အလုပ်သွားရာတွင် ဘတ်(စ်)ကား နောက်ကျခြင်း (သို့) ဘတ်(စ်) ကားစီးရာအချိန်အကြာကြီးကားပိတ်ဆို့မှုကြောင့် အလုပ်ရောက်နောက်ကျခြင်း၊ အချိန်မှီအလုပ်မပြီးဆုံးခြင်းစသော ပြဿနာများပင်ဖြစ်သည်။၎င်းပြဿနာနှင့်ပတ်သက်လို့ကိုင်တွယ်ဖြေရှင်းပေးစေလိုပြီး၊ ပိုမိုကောင်းမွန်သော ဘတ်(စ်)ကားစနစ်နှင့် သယ်ယူပို့ဆောင်ရေးစနစ်ကို ဖန်တီးစေချင်ကြပါလိမ့်မည်။ ၎င်းသည်ပင် ကိုင်တွယ်ဖြေရှင်းဖို့ လိုအပ်သော (ဥပမာ) ပုံစံပြဿနာတစ်ရပ်ပင်ဖြစ်ပါသည်။

သုတေသနလုပ်ငန်းမှာ သုတေသီတစ်ယောက်၏ ပထမဆုံးလုပ်ငန်းသည် သုတေသနပြုထိုက်သော ပြဿနာကို ရှာဖွေခြင်းပင်ဖြစ်သည်။ သုတေသနပြဿနာဆိုသည်မှာ ခရီးသွားမယ့်သူက ရှေးဦးပထမ ဘယ်နေရာသွားမယ်လို့ ခရီးလမ်းဆုံးပန်းတိုင်ကို ကြိုတင်သတ်မှတ်ခြင်းနှင့်အလားတူသည်။ ထိုနည်းတူ သုတေသနပြဿနာကို သတ်မှတ်လိုက်ခြင်းသည် အဆောက်အဦ၏ အုတ်မြစ်ချခြင်းနှင့်လည်း တူပါသည်။ ခိုင်မာသော အုတ်မြစ်ရှိမှသာ ခိုင်မာသော အဆောက်အဦဖြစ်ဖို့ မျှော်လင့်လို့ရနိုင်ပါသည်။ သုတေသနတွင်လည်း ပြဿနာ (အုတ်မြစ်)မရှိဘဲ ဖြေရှင်းဖို့ရာ အဖြေရှာဖွေခြင်းလုပ်ငန်းဖြစ်သောသုတေသန (အဆောက်အဦဖော်ဆောင်ခြင်း)လုပ်ငန်းဟာလည်း ရှိလိမ့်မည် မဟုတ်ပေ။ ထို့ကြောင့်ပြဿနာကို ဖော်ထုတ်ခြင်း၊ သတ်မှတ်ပေးခြင်းသည် သုတေသနလုပ်ငန်းစဉ်၏ အရေးကြီးသောအစိတ်အပိုင်းလည်းဖြစ်ပါသည်။ တနည်းဆိုသော် သုတေသနဆိုသည်မှာ ဖြေရှင်းဖို့လိုအပ်သော ပြဿနာတစ်ရပ်မှ ပေါ်ထွက်လာသော လုပ်ငန်းတစ်ခုဖြစ်ပြီး၊ ပြဿနာသည်လည်း သုတေသန၏ ဗဟိုချက်မပင်ဖြစ်ပါသည်။

သုတေသနပြဿနာဆိုသည်မှာ သိပ္ပံဆိုင်ရာ စုံစမ်းလေ့လာခြင်းနည်းစနစ်ကို အသုံးပြုရင်း ဖြေရှင်းရတဲ့ မေးခွန်းတစ်ခုကို ဆိုလိုပါသည်။တိတိကျကျပြောလျှင် သုတေသနပြဿနာဆိုတာ သုတေသန မေးခွန်းတစ်ခုပင်ဖြစ်သည်။ သုတေသီရွေးချယ်ထားတဲ့စာတမ်းခေါင်းစဉ် မြန်မာနိုင်ငံတွင်း ဘာသာရေးအကြောင်းကို လေ့လာကြည့်ခြင်း ခေါင်းစဉ်အောက်တွင် ပြဿနာတွေ မြောက်များစွာရှိနေမည်။ ယင်း ပြဿနာများအနက် သုတေသီ တကယ်စိတ်ဝင်စားတဲ့ပြဿနာတစ်ရပ်ကိုသာ ရွေးချယ်ရပါမည်။ ယင်းကြောင့် မေးခွန်း (ပြဿနာ)တစ်ခုကို မေးတော့မည်ဆိုရင် အောက်ပါအချက်အလက်များကို သေချာစဉ်းစားပါ။

(က) သုတေသနပြုထိုက်တဲ့ ပြဿနာလား။
(ခ) မိမိတကယ်လေ့လာလိုတဲ့စိတ်ရှိလား၊ စိတ်ဝင်စားမှုရှိလား။
(ဂ) Resources များ အလွယ်တကူရှာဖွေလို့ရနိုင်မလား။
(ဃ) အချိန်၊ ငွေ၊ လူအင်အား အဆင်ပြေလုံလောက်မှုရှိရဲ့လား။
(င) ပြဿနာဟာ စာတမ်းခေါင်းစဉ်နှင့်လိုက်လျောမှု၊ သင့်တော်မှုရှိရဲ့လား။

ကျွန်ုပ်တို့ရဲ့နေ့စဉ်ဘဝမှာ လူမှုပတ်ဝန်းကျင်နဲ့ပတ်သတ်လို့ မေးခွန်းပေါင်းစုံကို တွေးမိကောင်းတွေးမိကြပါလိမ့်မည်။

**ဥပမာ–**

(က) ဘာကြောင့်များ တချို့သော လူတွေဟာ သူတောင်းစားဖြစ်သွားကြတာလဲ၊
(ခ) တချို့လူတွေကဘာလို့များ မြို့ပေါ်မှာနေချင်ကြသလဲ။ အထက်ပါ မေးခွန်းများကို သုတေသန ရည်ရွယ်ချက်တစ်ခုအတွက် အသုံးပြုမယ်ဆိုရင် သုတေသန မေးခွန်း(သို့) သုတေသနပြဿနာတခုအဖြစ် သတ်မှတ်လို့ရနိုင်ပါသည်။

သုတေသနပြဿနာ၏သဘောနားလည်စေဖို့ အောက်ပါ စံနူန်းစံညွှန်းများကို လေ့လာကြည့်ကြပါမည်။

**သုတေသနပြဿနာ၏အင်္ဂါရပ်**

၁။ သုတေသနပြဿနာသည် သိလိုသောမေးခွန်းမှပေါ်ထွက်လာတာပါ။ (တစ်နည်း သုတေသနပြဿနာသည်သုတေသနမေးခွန်းပင်ဖြစ်ပါသည်။)

၂။ ပြဿနာသည် ကိန်းရှင်တို့ကြား ဆက်နွယ်မှု ရှိရပါမည်။

၃။ ပြဿနာသည် အသေးစိတ်ကျပြီး၊တိုင်းတာလို့ရတဲ့အယူအဆကိန်းများ ပါဝင်ရပါမည်။

၄။ ပြဿနာသည် ဖြေရှင်းလို့ရနိုင်သောအခြေနေလည်းရှိရပါမည်။

**သုတေသနပြဿနာ၏ သဘောသဘာဝ**

သုတေသနပြဿနာသည်လက်တွေ့နယ်ပယ်ထဲက ပြဿနာများနှင့်မတူပါ။ သုတေသနပြဿနာမှာ သဘောသဘာဝလက္ခဏာ(၂)ချက်ရှိပါသည်။

၁။ သုတေသန ပြဿနာဆိုသည်မှာ သိသင့် ၊ သိထိုက် ၊ သိနားလည်သင့်သော အရာများကို မသိရှိရသေးခြင်း၊ နားမလည်ရသေးခြင်းဆိုသည့် အခြေနေ တစ်ရပ်။

၂။ အထက်ပါအကြောင်းအရာများနှင့်ဆက်စပ်သော နောက်ဆက်တွဲ အကြောင်းအရာများ၊ ပိုပြီးအရေးကြီးသောအခြားတစ်စုံတရာတို့ကို မိမိရော၊ အခြားစာဖတ်သူများပါ မသိရှိခြင်း ၊ နားမလည်ခြင်း တစ်ရပ်။ သို့ပေမယ့် ယင်းအခြေနေတစ်ရပ်ကို သိရှိလိုသောစိတ်ရှိသည်။ သိရှိနားလည်လို့ရှိလျှင် ပိုပြီး အကျိုးများနိုင်သည်။ မသိရှိနားမလည် ၊ လျစ်လျူရှုထားလျှင် အကျိုးမများနိုင်ဆိုသော အကြောင်းများကြောင့် သုတေသနပြုလုပ်ရပါသည်။

ဥပမာ– သုတေသနပြဿနာတစ်ရပ်ကို လေ့လာကြည့်ကြပါစို့။

ဘုန်းတော်ကြီးသင်ပညာရေးများသည် လူမှုပတ်ဝန်းကျင်၏ စာရိတ္တများ မြင့်မားစေမှုကိုဖြစ်စေပါသလား။

ယခုနေရာမှာ သုတေသနပြဿနာသည် မေးခွန်းပုံစံနှင့်ရှိသည်။ ၎င်းမေးခွန်းထဲမှာ **ဘုန်းတော်ကြီးပညာရေး**ဆိုသောကိန်းနှင့် စာရိတ္တမြင့်မားမှု ဆိုသော ကိန်းရှင် ၂ခုတို့ကြား ဆက်နွယ်မှုနားလည်သဘောပေါက်ဖို့ စူးစမ်းရှာဖွေကြရတာပါ။

ဒီကိန်းရှင်တွေဟာ အသေးစိတ်လည်းကျသည်၊ တိုင်းတာလို့ လည်းရတယ်၊ ဖြေရှင်းလို့ရနိုင်တဲ့ အရာလည်းဖြစ်သည်။ သိသင့်သိထိုက်တဲ့ အရာများလည်း ဖြစ်သည်။ သိရင်အကျိုး ဖြစ်ထွန်းမည့်အရာများလည်း ဖြစ်ပါသည်။

## ယေဘုယျဆန်တဲ့ ပြဿနာနှင့် အသေးစိတ်ကျတဲ့ပြဿနာ

သုတေသနမေးခွန်းတွေဟာ အသေးစိတ် (Specific research question) နှင့် ယေဘုယျ(general research question)ဆိုပြီး(၂)ခုဖြစ်နိုင်ပါသည်။သုတေသန မေးခွန်းတခုမှာ ယာယီအဖြေအများကြီး(Tentative answers) ရှိနိုင်ပါသည်။ သို့ပေမယ့် အသေးစိတ်ကျတဲ့ သုတေသနမေးခွန်းမှာတော့ အသေးစိတ်ကျတဲ့ အဖြေတစ်ခုပဲရှိပါသည်။ ယေဘုယျကျတဲ့မေးခွန်းဟာ အသေးစိတ်ကျတဲ့ မေးခွန်းလောက် သိပ္ပံနည်းလမ်းကျမှုမရှိဘူးလို့ ယူဆကြပါသည်။

မေးခွန်းမေးရာတွင် ရှင်းလင်းပြီး၊ ပစ်မှတ်ထားလေ့လာရမယ့် အရာဟာဘာလဲဆိုတာကို အသေးစိတ်ဖော်ပြရပါသည်။ အသေးစိတ်ကျတဲ့ မေးခွန်း (ပြဿနာ) များဟာ သုတေသနပြုလို့ရပေမယ့် ယေဘုယျဆန်တဲ့မေးခွန်း (ပြဿနာ) များဟာ လေ့လာရမယ့် ပစ်မှတ်ထားရှိမှု မရေရာ မသေချာတာကြောင့် သုတေသနပြုဖို့ရန်ဖြစ်နိုင်ခြေ အားနည်းပါသည်။

**ဥပမာ –**

**ယေဘုယျပြဿနာ**။ မျိုးဆက်တွေဟာ ဘာလို့များသူတို့ရဲ့ မိဘများထက်၊ သာမန်အားဖြင့်အရပ်အမောင်းပိုရှည်ကြပါသလဲ။(ဘယ်မျိုးဆက်တွေလဲဆိုတဲ့ ပစ်မှတ်ထားရှိမှုမရှိ ၊ အသေးစိတ်ဖော်ပြမထားပါ။) **အသေးစိတ်ကျတဲ့ပြဿနာ**။ မျိုးဆက်သစ်ဂျပန်လူမျိုးတွေဟာ သူတို့ရဲ့ မိဘများထက် သဟဇာတကျတဲ့၊ မျှတတဲ့ ဓါတ်စာများကို စားသုံးကြပါသလား၊ ပြီးတော့ ညီမျှပြီး၊ သဟဇာတဖြစ်တဲ့ဓါတ်စာနဲ့ အရပ်ပိုရှည်မှု ကောင်းကျိုးအပြန်အလှန် ဆက်နွယ်မှုရှိပါသလား။

## သုတေသနမပြုထိုက်တဲ့ပြဿနာ

ပြဿနာတိုင်းတော့ သုတေသနပြုထိုက်သည်တော့မဟုတ်ပါ။ သုတေသနမပြုထိုက်သောပြဿနာများလည်းရှိပါသည်။

၁။ သုတေသနပြုထိုက်သောပြဿနာများဟာဆုံးဖြတ်ချက်ပေးမှု (decision) ၊ တန်ဖိုးထားမှု (Value)ဆိုင်ရာ မေးခွန်းများနဲ့ကင်းကွာမှုရှိရပါမည်။ ဆုံးဖြတ်ချက်ပေးသောမေးခွန်းတွေကို သိပ္ပံဆိုင်ရာနည်းလမ်းများကို အသုံးပြုရင်း ဖြေရှင်းလို့မရနိုင်ပါ။

ဥပမာ –

(က) ဟိန္ဒူဘာသာတရားဟာ ခရစ်ယာန်ဘာသာတရားထက် ကြီးမြတ်ပါသလား။

(ခ) ထာဝရဖန်ဆင်းရှင်ကို ယုံကြည်သင့်ပါသလား။

(ဂ) ထာဝရဖန်ဆင်းရှင်ရှိပါလား။

(ဃ) ထာဝရဖန်ဆင်းရှင် မရှိဘူးလား။

## သိရင်လည်းအကျိုးဖြစ်ထွန်းမှုမရှိတဲ့ ပြဿနာများ။

**ဥပမာ–** (က) ဆီးပင်မှာ ဆီးသီး ဘယ်မျှရှိပါသလဲ။

သုတေသီများသည် သစ်လွင်သော အကြောင်းအရာများနှင့် အရေးကြီးသော အရာ များနှင့် ပတ်သက်လို့ သုတေသနပြုလုပ်လိုကြလေ့ရှိပါသည်။ သို့ပေမယ့် ၎င်းသုတေသန ခေါင်းစဉ်များသည် ပတ်ဝန်းကျင်အတွက် အကျိုးမများ၊ မထိရောက်သေးသလို၊ သတင်းအချက်အလက်များ စုဆောင်းရာမှာလည်း ကန့်သတ်ချက်များရှိလို့ ရှာဖွေရတာ ခက်ခဲပါသည်။ ယင်းကြောင့် သုတေသနပြဿနာများကို ရွေးချယ်သည့်အခါ ရှေးကနဦး သုတေသနပြုမှုများကို အမှီသဟဲပြုထားတဲ့ ထပ်ဆင့်သုတေသနသစ်များသည် ကောင်းမွန်တဲ့စံနှုန်း၊ စံညွှန်းများနှင့် ကိုက်ညီသည်။ သို့ပေမယ့် ယင်းသို့ရွေးချယ်မှုသည်လည်း ခက်ခဲသောအလုပ်တစ်ခုဖြစ်တယ်လို့ဆိုရမှာပါ။ယေဘုယျအားဖြင့် ငြင်းခုံစရာကောင်းသောပြဿနာတစ်ခုကိုရွေးချယ်မိသည့်အခါ ကောက်ချက်ချ၊ နိဂုံးအဆုံးသတ်ရာမှာ ဘေးကျပ်၊ နံကျပ်ချောင်ပိတ်မိသလိုမျိုး မဖြစ်သွားစေသည့် ပြဿနာမျိုးဖြစ်သင့်ပါသည်။ ထို့ပြင် ရွေးချယ်ထားသောပြဿနာများသည် မကျဉ်းလွန်းသင့်သလို၊

အလွန်လည်းမကျယ်ပြန့်သင့်ပါ။ သုတေသနပြဿနာများသည် သုတေသီလုပ်ကိုင်ဆောင်ရွက်နိုင်သော အဆင့်မှာ ရှိရပါမည်။ ငွေကြေးသင့်တင့် လျောက်ပတ်မှု ၊ အချိန်ကာလအားဖြင့်လည်း လုံလောက်မှုရှိသော အရာလည်း ဖြစ်ရပါမည်။ သတင်းအချက်အလက် (sources and informations) များရှာဖွေရ လွယ်ကူပြီး၊ လူ့စွမ်းအားစသည်တို့ အဆင်ပြေချောမွေ့မှုအားဖြင့်လည်း လက်တွေ့ကျသောအရာလည်း ဖြစ်သင့်သည်။

## သုတေသနမေးခွန်း ( Research Question )

ရွေးချယ်လိုက်သော သုတေသနခေါင်းစဉ်နှင့် ပတ်သတ်လို့ သုတေသနဆိုင်ရာမေးခွန်းထုတ်ခြင်းသည်လည်း သုတေသနစာတမ်း ၏အရေးကြီးသောအစိတ်အပိုင်းတစ်ခုဖြစ်သည်။ (သုတေသနပြဿနာသည် သုတေသနမေးခွန်းဖြစ်ကြောင်း ပြောဆိုရှင်းလင်းပြီးဖြစ်ပါသည်။)

၎င်းသုတေသနမေးခွန်းသည်သုတေသနပြဿနာများထဲမှာ သုတေသနပြုလုပ်ချင်သော စိတ်ဝင်စားမှုနယ်ပယ်ကိုဖော်ပြပေးခြင်း လည်းဖြစ်သည်။ထို့အပြင် ၎င်းသည် သုတေသနစာတမ်းတစ်လျောက်လုံး ဘယ်အရာများကိုလေ့လာပြီး၊ ဆွေးနွေးတင်ပြရမှာဖြစ်တယ်ဆိုတာကို ညွှန်ပြပြီး၊ စာဖတ်သူများလည်း ဘယ်အကြောင်းအရာကိုတင်ပြဆွေးနွေး ရေးသားထားမှာဖြစ်ကြောင်း အသိပေးထားခြင်းလည်း ဖြစ်ပါသည်။

တိတိကျကျပြောရလျှင် သုတေသနခေါင်းစဉ်အောက်မှ ထွက်ပေါ်လာသောပြဿနာကို မေးခွန်းအဖြစ်ပြုလုပ်ခြင်းဖြစ်သည်။ သုတေသန မေးခွန်းကို မမေးခင်သုတေသီသည် ဘယ်အကြောင်းအရာကိုပိုပြီး စိတ်ဝင်စားလဲ၊ မိမိ၏သုတေသနစာတမ်းအောက်မှာ ဘယ်အခန်းကဏ္ဍတွေကို လေ့လာဖို့ရည်ရွယ်ထားရှိသလဲဆိုတာကို မိမိကိုယ်ကို အရင်ဆုံး မေးခွန်းထုတ်ကြည့်သင့်သည်။ မေးခွန်းမေးသည့်အခါလည်း သုတေသနလုပ်ဆောင်ဖို့အတွက် သင့်လျော်လျောက်ပတ်သော မေးခွန်းများကိုသာမေးမြန်းသင့်ပါသည်။ သုတေသနမေးခွန်းတစ်ခုသည်အောက်ပါ အင်္ဂါရပ်များနှင့် ပြည့်စုံနေရပါမည်။

## သုတေသန မေးခွန်းအင်္ဂါရပ်များ

၁။ ရှင်းလင်းနေရမည်။

၂။ တိကျရမည်။ (မကျဉ်းလွန်း၊ မကျယ်လွန်းဖြစ်ရမယ်။)

၃။ ယေဘုယျမဆန်ရဘူး၊ တစ်ခုတည်းကို အာရုံစူးစိုက်ထားတာမျိုးဖြစ်ရမည်။

၄။ yes and No အဖြေမျိုးဖြင့်ဖြေရှင်းလို့မရနိုင်တာမျိုးဖြစ်ရမည်။

၅။ ဘာကြောင့် ဒီမေးခွန်းကိုမေးသလဲဆိုသည့်ငြင်းခုံစရာ၊ တွေးတောစရာမျိုးဖြစ်နေရမည်။

၆။ သုတေသနမေးခွန်းဟာ သုတေသနပြဿနာကို ရည်ညွှန်းပြမှုရှိရမည်။

မေးခွန်းသည်မိမိစိတ်ဝင်တစားနှင့်သုတေသနပြုလေ့လာချင်သည့် အရာမျိုးလားဆိုတာကိုစီစစ်ပါ။ ရှင်းလင်းမှုရှိရဲ့လား ဆန်းစစ်ကြည့်ပါ။ ရှင်းလင်းမနေဘူးဆိုလျှင် သုတေသနပြုရမည့် နယ်ပယ်လာလည်း ရောထွေးနေမည်။ စာဖတ်သူများအတွက်လည်း ဖတ်ရတာ မရှင်းမလင်းဖြစ်နေမည်။

ဘယ်လိုစာဖတ်ပရိတ်သတ်တွေကို သိစေချင်တာလဲ၊ ရည်ရွယ်ထားသလဲဆိုတာကိုလည်း မေးခွန်းမေးစဉ်မှာ ထည့်သွင်းစဉ်းစား ရပါမည်။ မိမိမေးမည့်မေးခွန်းကို အခြားတစ်ယောက်ယောက်က ကြိုတင်မေးခွန်း ထုတ်ဖူးပြီးဖြစ်နေပေမယ့် စိတ်မပျက်ပါနဲ့၊ မပယ်ဖျက်ပစ်ပါနဲ့။ မေးခွန်းတူပေမယ့် တိကျမှု၊ တင်ပြမှု၊ ပိုမိုရှင်းလင်းမှု၊ ပီပြင်မှုတွေ အပေါ်မူတည်ပြီး အဖြေပေးပုံချင်း တူညီကြမှာမဟုတ်လို့ပါ။

မေးခွန်း မေးတော့မည်ဆိုလျှင် အဆင့်မြင့်ဂျာနယ်သမားတွေ မေးလေ့ရှိသော **who/what/when and where**စသည့် မေးခွန်းများနှင့် မေးပါ။ အများအားဖြင့်တော့ **why / how** စသည့် မေးခွန်းများနှင့် အလေးပေးမေးပါ။ယင်းမေးမြန်းချက်များသည် ပိုပြီးထိရောက်စေပါသည်။

သုတေသန မေးခွန်းဆိုသည်မှာ အငြင်းပွားစရာ၊ သိသင့်သိထိုက်ပေမယ့် အလွယ်တကူမသိရှိနိုင်တဲ့ အရာများဖြစ်ပြီး၊ အကြောင်းအရာတစ်ခုကို အလေးပေးလေ့လာရမည့်အရာမျိုးဖြစ်ရပါမည်။ မေးခွန်းထုတ်ပြီးပြီဆိုလျှင် သေချာဆန်းစစ်ကြည့်ပါ၊ အကဲဖြတ်ကြည့်ပါ။ မေးခွန်းမေးမယ်ဆိုရင် သတိထားရမှာတခုက သုတေသနစာတမ်းခေါင်းစဉ်ရွေးချယ်တဲ့အခါ တစ်ယောက်နဲ့ တစ်ယောက်တူညီကောင်း တူညီကြပေလိမ့်မည်။ သို့ပေမယ့် သုတေသနမေးခွန်း (ပြဿနာ)ရွေးချယ်မှု တူညီကြမှာမဟုတ်ပါ။

(ပြဿနာတူညီရင်တောင် ဖြေရှင်းပုံတူကြမှာမဟုတ်ပါ)၊ မေးခွန်း (ပြဿနာ) ရွေးချယ်မှု အပေါ်မူတည်ပြီး သုတေသနစာတမ်း ဦးတည်ချက်ဟာလည်း ပြောင်းလဲသွားမှာ ဖြစ်ပါသည်။ ယင်းကြောင့် မည်သည့်အခန်းကဏ္ဍကို စိတ်ဝင်စားသလဲဆိုတာကိုသိရှိရပါမည်။ **ဥပမာ–** "*မိမိကိုယ်ကိုသတ်သေခြင်းနှင့် ပါဏာတိပါတကံကိုလေ့လာခြင်း ခေါင်းစဉ်ကို သုတေသနပြုလုပ်ကြရာတွင် သုတေသီတစ်ယောက်အနေနှင့် မိမိကိုယ်ကို သတ်သေခြင်းသည် ပါဏာတိပါတကံမမြောက်ဟုရပ်တည်နိုင်ပြီး အခြားသုတေသီသည် ပါဏာတိပါတကံမြောက်သည်ဟု ရပ်တည်ပြောဆိုကာ* သုတေသနပြုလုပ်နိုင်သည်။

ယင်းကြောင့်မိမိသည်ဘယ်အခန်းကဏ္ဍကို မေးခွန်းထုတ်မလဲဆိုသည်မှာ အရေးကြီးပါသည်။

**မေးခွန်းပုံစံများ**

၁။ ၂၀၁၀ မှ ၂၀၁၂ ခုနှစ်အတွင်း မြန်မာ့စိုက်ပျိုးရေးတိုး တက်ကောင်းမွန်မှု ရှိခဲ့ပါသလား။

၂၀၁၀ မှ ၂၀၁၂ ခုနှစ် အတွင်း မြန်မာ့စိုက်ပျိုးရေး ဘယ်မျှထိ တိုးတက်ကောင်းမွန်မှု ရှိခဲ့ပါသလဲ။

၂။ ၁၉၉၉ မှ ၂၀၀၁ခုနှစ် အတွင်း မြန်မာ့ပြည်တွင်းစီးပွားကုန်သွယ်မှု တိုးတက်မှု ရှိခဲ့ပါသလား။

၁၉၉၉ မှ၂၀၀၁ခုနှစ်အတွင်း မြန်မာ့ပြည်တွင်း စီးပွားကုန်သွယ်မှု ဘယ်လိုဖြစ်ခဲ့သလဲ။

၃။ ၂၀၁၅ မှ ၂၀၁၇ခုနှစ်အတွင်း မြန်မာ့စိုက်ပျိုးရေးနှင့် ကုန်ထုတ်မှု တိုးတက်မှု ရှိခဲ့ပါလား။

၂၀၁၅ မှ ၂၀၁၇ခုနှစ်အတွင်း မြန်မာ့စိုက်ပျိုးရေးနှင့်ကုန်ထုတ်မှု ဘယ်လောက်ထိ တိုးတက်ခဲ့သလဲ။

၄။ ၂၀၁၆ မှ ၂၀၁၇ခုနှစ်အတွင်း မြန်မာ့ကုန်ထုတ်လုပ်မှုနှင့် စီးပွားရေးဘာကြောင့် ကျဆင်းခဲ့ပါသလဲ။

၅။ Is there a significant relationship between the age of managers and their attitudes towards the reorganization?

၆။ Is there a significant difference between white and minority residents with respect to what they feel are the most important problems facing the community?

၇။ can it be said that self-sucide is a killing commit?

## မေးခွန်းမှသည် အဆိုပြုချက်
## (From research question to Hypothesis)

သုတေသနမေးခွန်းသည်သုတေသနပြဿနာလို့ ပြောဆိုပြီးဖြစ်ပါသည်။ ၎င်းသုတေသနမေးခွန်း (research question) ကို ယာယီ(သို့)အနုမာန အဆိုကြမ်း (Hypothesis) ထုတ်ဆိုကြည့်ဖို့လိုပါသည်။ အနုမာန အဆိုကြမ်း (သို့) ယာယီအဖြေဟာ သုတေသနစာတမ်း၏အရေးကြီးသောအရာထဲမှ တစ်ခုဖြစ်သည်။၎င်းကို hypothesis လို့ခေါ်သည်။တချို့သော သုတေသနများတွင် သုတေသနစာတမ်း၏ နောက်ဆုံးတွင် ရရှိလာမည့်ရလဒ်ကို ကြိုတင်ဟောကိန်း ထုတ်ခြင်းပင်ဖြစ်သောကြောင့် ကြိုတင်မှန်းဆ အဖြေဟုခေါ်သည်။ သို့ရာတွင် ဘာသာရေးနှင့် သမိုင်းနယ်ပယ်များတွင် နောက်ဆုံးရလာ မည့်ရလဒ်များအဖြစ်ဖြင့် မှန်းဆခြင်းမဟုတ်ဘဲ မိမိ၏ ယုံကြည်ချက်များဖြစ်ပြီး သုတေသနတလျှောက်လုံး ၎င်းကို ထောက်ပံ့ပြောဆိုမည့် အဆိုပြုချက် ဖြစ်သောကြောင့် သုတေသီ၏ ရပ်တည်ချက်ဟု ဘာသာပြန်ဆိုကြသည်။

### ယာယီအဖြေတစ်ခု၏ စံနှုန်းများ

၁။ ယာယီအဖြေဟာ အဆိုပြုချက် (Argument) တစ်ရပ်လုပ်လို့ရနိုင်ရမည်။

၂။ ယာယီအဖြေဟာ defend လုပ်ဖို့လိုအပ်တဲ့ နေရာတစ်ခုမှာရှိရပါမည်။

၃။ ယာယီအဖြေဟာ အသေးစိတ်၊ တိတိကျကျဖြစ်ရပါမည်။
(ယေဘုယျမဆန်ရဘူး၊ မကျယ်လွန်း၊ မကျဉ်းလွန်းဖြစ်ရပါမယ်)

၄။ ငြင်းခုံရမယ့်အကြောင်းအရာတစ်ခုကို အာရုံစူးစိုက်မှု၊ ဗဟိုပြုမှုရှိရမည်။

၅။ ယာယီအဖြေဟာ ငြင်းခုံစရာမဟုတ်ပဲ အလွယ်တကူလက်သင့်ခံတဲ့ ဖြစ်ရပ်မှန် အချက်အလက်မျိုးဖြစ်မနေရပါ။

၆။ "အဲတော့ ဘာဖြစ်လဲ"ဆိုတဲ့ မေးခွန်းကို ဖြေဆိုနိုင်ရပါမည်။

**ဥပမာ** – သုတေသီတစ်ယောက်ဟာ လေထုညစ်နွမ်းမှုရဲ့ အကြောင်းအကျိုးကို လေ့လာဖို့ စိတ်ဝင်စားတယ်ဆိုပါစို့။ လေ့လာဖို့အတွက် သုတေသနမေးခွန်းတွေ ထုတ်ရပါလိမ့်မယ်။ ၎င်းသုတေသန မေးခွန်းအတွက် ယာယီအဖြေများကို မှန်းဆထုတ်ဆိုကြည့်ရ ပါလိမ့်မည်။

(က) **သုတေသန ပြဿနာ (problem)**၊ လေထုညစ်နွမ်းမှုဖြစ်စေခြင်းအတွက် ယာဉ် (ကား၊ ရထား၊ မော်တော်ယာဉ်၊ လေယာဉ်) များမှာ တာဝန်ရှိပါသလား။

**အဆိုပြုချက်** (Hypothesis)၊ ယာဉ်တွေများလေလေ၊လေထုညစ်နွမ်းမှုပိုများလာလေလေပဲလေ။

(ခ) **သုတေသနပြဿနာ** (problem)၊ လေထုညစ်နွမ်းမှုဟာ အသက်ရှုလမ်းကြောင်းဆိုင်ရာရောဂါတွေဖြစ်စေမှုအတွက် တာဝန်ရှိပါသလား။

**အဆိုပြုချက်** (Hypothesis) လေထုညစ်နွမ်းမှု အခြေအနေပိုမြင့်တက်လာ လေလေ၊ ရာခိုင်နှုန်းပိုများတဲ့ လူတွေအသက်ရှုလမ်းကြောင်းဆိုင်ရာရောဂါ ဖြစ်ပွားမှုများလေလေပါပဲ။

(ဂ) **သုတေသနပြဿနာ** (problem)။ လေထုညစ်နွမ်းမှုဟာ မျက်လုံးရောဂါဖြစ်စေမှုအတွက် တာဝန်ရှိပါလား။

**အဆိုပြုချက်** (Hypothesis)။ လေထုညစ်နွမ်းမှု မြင့်တက်လာလေလေ ရာခိုင်နှုန်းပိုများတဲ့လူတွေ မျက်လုံးရောဂါဖြစ်ပွားမှုပိုများလေလေ။

(ဃ) ပုဂံခေတ် အနော်ရထာဘုရင်အုပ်စိုးချိန် ကျွန်စနစ်ထွန်းကားခဲ့ပါသလား။

**အဆိုပြုချက်** (Hypothesis) ။ ပုဂံခေတ် အနော်ရထာဘုရင်အုပ်စိုးချိန် ကျွန်စနစ်ထွန်းကားခဲ့သည်။

**ယာယီမှန်းဆအဖြေ (Hypothesis) (၂)မျိုး**

၁။ Research hypothesis or alternative hypothesis

၂။ Null hypothesis

**Alternative Hypothesis($H_1$)** ဆိုတာအကြောင်းအရာတစ်ခုနဲ့ပတ်သက်လို့ မှန်ကန်တယ်လို့ မျှော်လင့်မှု ကြိုတင်မှန်းဆခြင်း ယာယီအဖြေကိုခေါ်ပါသည်။

**Null hypothesis ($H_0$)** ဆိုတာ အကြောင်းအရာတစ်ခုနဲ့ ပတ်သက်လို့ သုတေသီတစ်ယောက်က မဟုတ်၊ မမှန်ကြောင်း ၊ ပယ်ဖျက်ကြောင်း ကြိုတင်မှန်းဆခြင်း ယာယီအဖြေပင်ဖြစ်ပါသည်။ တနည်းပြောရရင် သုတေသီတစ်ယောက်က မျှော်လင့်ထား တဲ့ အရာများနဲ့ ဆန့်ကျင်ဘက်မှန်းဆ အဖြေထုတ်ခြင်းဖြစ်ပါသည်။

Null hypothesis နဲ့ Alternative hypothesis ရဲ့ ရည်ရွယ်ချက်က သုတေသီရဲ့ လေ့လာရမယ့် နယ်ပယ်တွေကိုကန့်သန့်ချက်ဘောင်အတွင်းက ဘယ်အကြောင်းအရာကို လေ့လာရမယ်လို့ ညွှန်ပြပါသည်။

**ဥပမာ** –

၁။ **သုတေသန မေးခွန်း** – အနုပညာသမားတွေဟာ သာမန်လူအုပ်ထဲမှာ တွေ့ရတဲ့ လူတွေထက် ဘယ်သန်တွေများဖို့ အလားလာပိုရှိပါသလား။ **Null hypothesis:** သာမာန်လူအုပ်ထဲက လူတွေထက် အနုပညာကောလိပ်ကျောင်း၊ ဗိသုကာ အတတ်ပညာကျောင်းမှ ကျောင်းသားတွေဟာ ဘယ်သန်တွေဖြစ်ကြဖို့ အလားလာ ပိုမရှိပါဘူး။

**Alternative Hypothesis:** သာမန်လူတွေထက် အနုပညာကျောင်း၊ ဗိသုကာအတတ်ပညာကျောင်းထဲမှ ကျောင်းသားတွေဟာ ဘယ်သန်တွေ ဖြစ်ကြဖို့ အလားလာပိုရှိပါသည်။

၂။ **Research Question:** Does the data suggest that females are more likely than males to eat vegetratian meals on a regular basis ?

**Null Hypothesis :** There is no gender effect regarding those who eat vegatarian meals on a regular basis.

**Alternative Hypothesis:** Females are more likely than males to eat vegetarian meals on a regular basis.

୨॥ **Research Question:** Do the odds having a stroke increase if you inhale second hand smoke? A case-control study of non-smoking stroke patients and controls of the same age and occupation are asked if someone in their household smokes.

**Null Hypothesis** : There is no relationship between whether or not a person lives with a smoker.

**Alternative Hypothesis :** There is a relationship between whether or not a person has a stroke and whether or not a person lives with a smoker.

୩॥ **Research question-** Are there difference in extroversion, as measured by introversion - extraoversion scores ,by birth order.(i.e,first born vs,all others ) such that first- born children have siginficantly higher extroversion scores than all other birth-order childer?

**Null hypothesis :** There are no differences in extroversion, as meausre by introversion-extroversion scores,by birth order(i.e,first bornVs.all others) such that first -born children have singificantly higher extroversion scores than all other birth- ordre children.

**Alternative Hypothesis:** There are differences in extroversion, as measured by introversion-extroversion scores, by birth order (i.e., first born vs. all others) such that first-born children have significantly higher extroversion scores than all other birth-order children.

୪॥ **Research question:** Is there a significant relationship between the age of managers and their attiudes towards the reorganization?

**Null hypothesis:** There is no significant relationship between the age of managers and their attitudes towards the reorganization.

**Alternative hypthesis:** There is a significant relatinship between the age of mangers and their attiudes towards the reorganization .

୫॥ **Research question :** Is there a significant difference between white and minority residents with repect to what they feel are the most important problems facing the community ?

**Null hypothesis :** There is no significant difference between white and minority residents with respect to what they feel are the most important problems facing the community.

**Alternative hypothesis :** There is a significant difference white and minority residents with respect to what they feel are the most important problems facing the community.

အထက်ပါအဖြေ (၂)မျိုး အနက် မိမိရပ်တည်တဲ့ အဖြေပေါ်မှာခိုင်လုံတဲ့ အကြောင်းပြချက်များပေးပြီး သုတေသီဟာ ရှင်းလင်းပြရပါမည်။ The null hypothesis and alternative hypothesis နှင့် Research Problem ၏အဓိကကွာခြားချက်ကတော့ သုတေသနပြဿနာများဟာ စမ်းသပ်လို့မရနိုင်သေးတဲ့ သုတေသနမေးခွန်းများဖြစ်ပြီး ယာယီအဖြေ (၂)ခုကတော့ စမ်းသပ်လို့ရနိုင်ပါသည်။

အောက်ဖော်ပြပါ ပုံစံဟာ Null hypothesis နှင့် Alternative Hypothesis လုပ်ပုံကို အလွယ်တကူနားလည်ပါလိမ့်မည်။

| **Null hypothesis** | **Alternative Hypothesis** |
|---|---|
| မဟုတ်၊ မရှိ | ဟုတ်တယ်၊ ရှိတယ် |

Null Hypothesis သည် သုတေသီ၏ ယာယီမှန်းဆအဖြေနှင့် အမြဲတမ်းဆန့်ကျင်ဘက် အဖြေထုတ်ရသော အဖြေဖြစ်ပါသည်။ သုတေသီ၏ ယာယီအဖြေဟာ ရှိတယ်လို့ပြောရင် ၎င်းက မရှိဘူးလို့အဖြေထုတ်မှာပါ။ သုတေသီ၏ အဖြေသည် မရှိဘူးလို့ပြောလျှင် ၎င်းသည်ရှိတယ်ဆိုသည့် အဖြေထွက်ဆိုမှာပါ။

## ယာယီအဖြေမှသည် အဆိုပြုချက်၊ရပ်တည်ချက်သို့
## (From Hypothesis to Claim / thesis statement)

ယာယီမှန်းဆအဖြေသည် သုတေသီ၏ ခိုင်မာရပ်တည်ချက်ဖြစ်ပြီး အဆိုပြုချက်တစ်ခုလည်းဖြစ်သည်။ အဆိုပြုချက်ကို ယာယီမှန်းဆအဖြေဟုခေါ်သည်။ (tentative answer/ Hypothesis /working answer)။ ကိုယ်ပိုင်ယူဆချက်(Claim) လို့လည်း ခေါ်ပါသည်။ တချို့ဆရာတွေကတော့ thesis statement လို့လည်း ခေါ်ဆို ကြပါသည်။ ယင်းယာယီအဖြေ (သို့) မိမိ၏ ကိုယ်ပိုင်ယူဆချက်ကို သုတေသနစာတမ်း တစ်လျောက်လုံးမှာ အကြောင်းပြချက် (reason)၊ သက်သေအထောက်အထား (Evidence)တွေ ပံ့ပိုးရင်းဆွေးနွေးတင်ပြရမှာဖြစ်ပါသည်။ ကိုယ်ပိုင်ယူဆချက် (Thesis Statement )ဟာ ကိုယ်ပိုင်အဆိုပြုချက် (Argument) သော့ချက်ပင် ဖြစ်ပါသည်။

၎င်းအဆိုပြုချက်သည်–

၁။ **အလွန်ယေဘုယျမဆန်ရဘူး။**

**ဥပမာ–** Fast Food စားသုံးခြင်းဟာ ဆိုးဝါးပြီး ၊ စားသုံးခြင်းကို ရှောင်ရှားရပါမယ်။

အထက်ပါယာယီအဖြေမျိုးဟာ အလွန်ယေဘုယျဆန်လွန်းပြီး သုတေသီ အနေနဲ့ ငြင်းခုံဖို့ ဖြစ်နိုင်မှာမဟုတ်ပါ။ ဒီလိုယာယီအဖြေမျိုးအတွက် ဖြေဆိုဖို့ရန် မေးခွန်းတွေ မြောက်များစွာရှိနေတယ်။ fast food အားလုံးက မကောင်းတာလား၊ ဘာလို့မကောင်းတာလဲ၊ ဘယ်သူတွေရှောင်ရှားသင့်တာလဲ ၊ ဘယ်သူတွေကများ ဂရုစိုက်ရမလဲ။

Fast Food ဓါတ်စာဟာ အဝလွန်ခြင်း၊ သွေးတိုးရောဂါဖြစ်စေခြင်း၊ နှလုံးရောဂါဖြစ်စေခြင်းစတဲ့ ကျန်းမာရေးဆိုင်ရာ ဆိုးကျိုးကြီးကျယ်များမှုကို ဖြစ်စေတာမို့ မြန်မာတွေက Fast Food စားသုံးခြင်းကို ရှောင်ရှားသင့်တယ်။ဒီအဆိုပြုချက်မှာ Fast Food နဲ့ ဆက်နွယ်တဲ့ ကျန်းမာရေးအကျိုးဆက်ကိုမြင်သာအောင် အကျဉ်းချုံ့ ပေးထားပါတယ်။ ထို့ပြင် ကမ္ဘာပေါ်ရှိအခြားနိုင်ငံသားများမဟုတ်ပဲ မြန်မာနိုင်ငံသားတွေလို့ တိတိကျကျ ရှိအောင် ပြောဆိုထားပါသည်။

**၂။ အဆိုပြုချက်ဟာငြင်းခုံရမယ့်အကြောင်းအရာပေါ်မှာ ဗဟိုပြုရပ်တည်နေရမယ်။**

မိမိရဲ့ အဆိုပြုချက်ဟာ ငြင်းခုံရမည့် အကြောင်းအရာမှာ ဗဟိုပြုရပ်တည်ထားမှသာ သုတေသနလုပ်ငန်းဟာ အသက်ဝင်မှာဖြစ်ပါသည်။ ငြင်းခုံစရာ မဟုတ်ပဲ အလွယ်တကူနည်းလည်းနိုင်တဲ့ အချက်အလက်၊ အကြောင်းအရာအပေါ် အခြေခံထားမယ်ဆိုရင် သုတေသနပြုလုပ်စရာလိုတော့မည်မဟုတ်ပါ။

**ဥပမာ** –ရန်ကုန်မှာ အလှူခံစားနေကြတဲ့ သက်ကြီးရွယ်အိုတွေ အများကြီးရှိပါသည်။ အထက်ပါအကြောင်းအရာနဲ့ပတ်သက်လို့ ဘယ်သူမှလာပြီး အငြင်းအခုံလုပ်ကြမှာမဟုတ်ပါဘူး။ ဘာလို့လဲဆိုတော့ ဒါဟာ တကယ်ဖြစ်ရပ်မှန် (အမှန်တရား) တစ်ခုဖြစ်ပြီး ငြင်းခုံရန်လိုအပ်တဲ့အရာလည်း မဟုတ်လို့ပါ။

ရန်ကုန်မြို့တွင်းက အလှူခံစားနေကြတဲ့ သက်ကြီးရွယ်အိုတွေ ပုံမှန်အစားအသောက်တွေ ထောက်ပံ့ပေးခြင်း၊ နေရာထိုင်ခင်းများပေးခြင်း၊ အဝတ်အစားတွေပံ့ပိုးပေးခြင်း စတဲ့ဝန်ဆောင်မှုများပေးသင့်ပါသည်။ အကြောင်းကတော့ (ဒီလိုထောက်ပံ့ပေးရင်) မြို့တော်နေလူတိုင်း အားလုံးအဖို့ ဘဝကိုတိုးတက် ကောင်းမွန်စေမှာဖြစ်လို့ပါ။"

ဒီလိုပြောဆိုလိုက်လျှင် အခြားတစ်စုံတစ်ယောက် " ထောက်ပံ့ပေးပြီးပြီပဲ၊ (သို့) ဘာလို့ပေးစရာလိုလို့လဲ" စသည်ဖြင့် စောဒကတတ် ဆန့်ကျင်လာနိုင်တာမို့ ငြင်းခုံစရာကောင်းတဲ့ အကြောင်းအရာတစ်ခု ဖြစ်နိုင်ပါသည်။

**၃။ ဘက်တစ်ခုတည်း ရပ်တည်ရပါမည်။**

ဟိုဘက်ကို ထောက်ခံနေသယောင်ယောင်၊ ဒီဘက်ကို ထောက်ခံနေသယောင်ယောင်အရာမျိုး မဖြစ်ရပါ။ အဆိုပြုချက်တစ်ရပ်ကို ပြုလုပ်တယ်ဆိုတာ ဘက်တစ်ခုတည်းကို ထောက်ခံရင်း၊ သက်သေပြရင်းနဲ့ အခိုင်အမာဖြစ်အောင် ပြုလုပ်ရတာမျိုးဖြစ်ပါသည်။ ဟိုဘက်လိုလို ဒီဘက်လိုလို ဆိုလျှင် ငြင်းခုံရမှာလား ထောက်ခံရမှာလား သဘောမျိုးဖြစ်တတ်ပါသည်။

**ဥပမာ**–"ဆေးလိပ်မီးခိုး ရှူရှိုက်ရတာဟာ တကယ်ဆိုးဝါးလှပါသည်။ ဒါဟာ ကင်ဆာ ရောဂါကိုလည်း ဖြစ်စေတတ်ပါသေးသည်။ ဒါ့ကြောင့် အများပြည်သူတွေ သွားလာနေတဲ့ နေရာတွေမှာ ဆေးလိပ်သောက်ခြင်းကို တားဆီးပိတ်ပင်သင့်ပါသည်။

ဒါပေမယ့် အဲလိုတားဆီးပိတ်ပင်တာဟာ ဆေးလိပ်သောက်တတ်သူတွေအတွက်တော့ မျှတမှုတော့ မရှိပါဘူး။ ဒါကြောင့်ဆေးလိပ်မသောက်သူတွေအနေနဲ့ အသက်ရှူခြင်းကို အောင့်ထားပါ (သို့မဟုတ်) ဆေးလိပ်သောက်သူရဲ့ အနီးအနားရှိရင် Mask အုပ်ထားကြပါ"။

အထက်ပါပုံစံကဲ့သို့ ဟိုဘက်လိုလို၊ ဒီဘက်လိုလို ပြောဆိုမှုဟာ စာဖတ်သူများကို ဇဝေဇဝါ (သို့လော၊ သို့လောနှင့်) ဦးနှောက်စားစေပါသည်။ ထို့ကြောင့် တစ်ဘက်တည်းမှာရပ်တည်တဲ့ အောက်ပါပုံစံမျိုးဖြစ်နေရပါမည်။

ဆေးလိပ်ငွေ့ရှူရှိုက်မှုဟာ ဆေးလိပ်သောက်သကဲ့သို့ အန္တရာယ်များ ပါသည်။ ၎င်းသည် ကင်ဆာရောဂါနဲ့ နှလုံးရောဂါဖြစ်စေမှုကို ပိုပြီးဦးတည်စေပါသည်။ အဆိုးဝါးဆုံးကတော့ ဆေးလိပ်ငွေ့ရှူရှိုက်မိတဲ့လူတွေဟာ ၎င်းဆေးလိပ်ငွေ့တွေကို ခွင့်ပြုချက်တောင်းစရာမလိုပဲ ရှူရှိုက်နေကြတာဖြစ်သည်။ ထိုအကြောင်းကြောင့် အများပြည်သူများ ရှိတဲ့နေရာတွေမှာ ဆေးလိပ်သောက်ခြင်းကို တားဆီးပိတ်ပင်သင့်ပါသည်။

အထက်ပါပုံစံသည် အများပြည်သူများရှိသော နေရာမှာ ဆေးလိပ်သောက်ခြင်းကို တားဆီးပိတ်ပင်သင့်ကြောင်း ပြောဆိုထားတာဖြစ်ပြီး၊ ၎င်းအဆိုပြုချက်ကို မနှစ်သက်၊ သဘောမတူတဲ့သူများအနေနှင့် စောဒကတတ်စရာဖြစ်ပြီး ငြင်းခုံစရာမျိုး ဖြစ်ပါသည်။

## ၄။ အဆိုပြုချက်ဟာ သက်သေအထောက်အထားများ၊အကြောင်းပြချက်များဖြင့် ထောက်ပံ့ပေးလို့ရတဲ့အရာဖြစ်ရပါမည်။

အဆိုပြုချက်သည် သုတေသနစာတမ်း၏ လမ်းပြမြေပုံတစ်ခုကို တည်ဆောက်ခြင်း၏ အစိတ်အပိုင်းပင်ဖြစ်ပါသည်။ သုတေသီသည် မိမိ၏ သုတေသနစာတမ်းအတွင်း မည်သည့်အကြောင်းအရာများကို အကြောင်းပြချက်၊ သက်သေအထောက်အထားဖြင့် ခိုင်မာအောင်ပြောဆိုတော့မယ်ဆိုတာကို ညွှန်ပြထားသည်။

**ယာယီထုတ်ထားတဲ့ အဖြေမှာ –**

**ဥပမာ (၁)** "မြန်မာ့ပညာရေးနှင့် နိုင်ငံဖွံ့ဖြိုးတိုးတက်မှု ဆက်နွယ်မှုရှိပါတယ် "ဆိုတဲ့ ယာယီအဖြေကို ရွေးချယ်ထားပြီဆိုပါစို့ " ဘာကြောင့်များ ထိုသို့ပြောဆိုနိုင်ပါသနည်းဆိုတာကို စာဖတ်သူများ သိချင်ကြပါလိမ့်မည်။ သိရင်အကျိုး ဖြစ်ထွန်းမှုလည်း ရှိပေမည်။ ဒါကို သုတေသီက ခိုင်လုံတဲ့ အကြောင်းပြချက် အထောက်အထားများ

ပံ့ပိုးပြီးတော့ " ဒါကြောင့်ခုလိုပြောဆိုနိုင်သည်" ဟု စာဖတ်သူများ လက်ခံယုံကြည်လာအောင်ပြောဆို၊ တင်ပြရပါမည်။

**ဥပမာ (၂)** "<u>မိမိကိုယ်ကိုသတ်သေခြင်းသည် ပါဏာတိပါတကံမြောက်သည်</u> ဆိုသောရပ်တည်ချက်ကို ရွေးချယ်ထားသည်ဆိုပါစို့။ ဘာကြောင့် ထိုသို့ပြောဆိုနိုင်သနည်းဆိုတာကို စာဖတ်သူများ စောဒကတက်လာနိုင်ပါသည်။ ဒါကို သုတေသီက စာဖတ်သူများအား ခိုင်လုံတဲ့ အကြောင်းပြချက်၊ အထောက်အထားသက်သေများ ပံ့ပိုးပြီး " ဒါကြောင့်ထိုက်ပါသည်'ဟု စာဖတ်သူများ လက်ခံယုံကြည်လာအောင် ပြောဆို တင်ပြရပါမည်။

## သုတေသန အဆိုပြုချက် (Research Arguments)

သက်သေအခြေပြုသုတေသန (Evidence Based Research) ဆိုသည်မှာ အတိတ် မှာ ဖြစ်ပျက်ခဲ့သော အဖြစ်အပျက်များကို ပြန်လှန်သုံးသပ် ဝေဖန်တင်ပြရသော လုပ်ငန်းဖြစ်သည်။၎င်းကို သမိုင်းစာတမ်း၊ ဆေးဝါးဆိုင်ရာစာတမ်း၊ ဘာသာရေး ဆိုင်ရာ စာတမ်းတို့မှာအသုံးပြုကြပြီး အဆိုပြုချက် (argument) များနှင့် ထောက်ပံ့ရင်း ရေးသားတင်ပြရသည်။

Argumentation ဆိုသည်မှာ လူမှုရေးလုပ်ငန်းစဉ်တစ်ခုဖြစ်သည်။ Argument လုပ်ရပ်သည် သတိထားမိသည်ဖြစ်စေ၊ သတိမထားမိသည် ဖြစ်စေ၊ ကျွန်ုပ်တို့၏ နေ့စဉ်ဘဝထဲမှာ ပြည့်နှက်လျက်ရှိကြပါသည်။ **ဥပမာ–** ဘာစားဖို့ ၊ ဘယ်သွားဖို့၊ ဘာတွေလုပ်ဖို့ စတဲ့အကြောင်းများနဲ့ပတ်သက်လို့ပြောဆိုကြရ သလိုပါပဲ။၎င်းလုပ်ငန်းစဉ်ထဲမှာ (၂)ယောက်၊ (၂)ယောက်ထက်များသည့်လူများသည် ၎င်းတို့၏ ယူဆချက်များအတွက် ထောက်ပံ့ပြောဆိုကြရင်း တစ်ယောက်ကို တစ်ယောက် တုန့်ပြန်မှုများ ပါဝင်ပါသည်။ Argumentationပြုလုပ်ရခြင်း၏ ရည်ရွယ်ချက်သည် မိမိ၏ အဆိုပြုချက်၊ တွေ့ရှိချက်များကို ပရိတ်သတ်ဆီကနေ ခိုင်မာတဲ့ ယုံကြည်ချက်များကို ရရှိဖို့အတွက် ဖြစ်ပြီး၊ ပရိတ်သတ်ကို လက်ခံပေးခိုင်းခြင်းလည်းဖြစ်သည်။ Argumentation လုပ်ခြင်းတွင် နားထောင်သူ တစ်ယောက်တည်းရှိ နေစေကာမူ၊ နားထောင်သူ၊ ပရိတ်သတ်ကို ဦးစားပေးရတဲ့ လုပ်ရပ်တစ်ခုလည်းဖြစ်ပါသည်။

Argument လို့မြင်လိုက်သည်နှင့်တပြိုင်နက်အရပ်ထဲက လူတွေငြင်းဆန်တာမျိုးလား၊လူ (၂)ယောက် အချီအတင်ပြောဆိုခြင်းမျိုးလားလို့ ထင်ကောင်းထင်မြင်ယူဆနိုင်ပါသည်။ သို့ပေမယ့် သုတေသနစာတမ်းထဲက Argument သည်အရပ်ထဲက ငြင်းခုံကြစကားအချီအတင်းပြောကြသလိုမျိုးကို ဆိုလိုတာမဟုတ်ပါ။

Argument သည် မိမိထင်မြင်ယူဆထားသောအကြောင်းအရာတစ်ခုတွင် မားမားမတ်မတ် ရပ်တည်ဖို့အတွက် သက်သေအထောက်အထားများနှင့် အဆိုပြုတင်ပြခြင်းမျိုးဖြစ်ပါသည်။

**ဉပမာ–** ရှေ့နေတစ်ယောက်သည် သူလိုက်အမှုအပေါ်ထွက်ဆိုချက် သက်သေများနှင့် မားမားမတ်မတ်ရပ်တည်သလိုမျိုး။

အဆိုပြုချက် (Argument)သည်သုတေသန စာတမ်း၏ကိုယ်ထည် (Body) ပိုင်းမှာရေးရမယ့်အခန်းဖြစ်ပါသည်။ ၎င်းသည် မိမိ၏ သုတေသနမေးခွန်းနှင့်ဆက်စပ်မှုလည်းရှိရပါမည်။မိမိ၏အဖြေသည် ဘာကြောင့်ခိုင်မာမှုရှိကြောင်း၊ ဟုတ်မှန်ကြောင်း မားမားမတ်မတ်ရပ်တည်ဖို့အတွက် သက်သေများ၊ အထောက်အထားများ အကြောင်းပြချက်များပေးပြီး ပြောဆိုတင်ပြရမယ့် ကဏ္ဍလည်းဖြစ်ပါသည်။ အဆိုပြု ချက်များဟာ သက်သေအထောက်အထားပေါင်းများစွာကို မူတည်ပြီး ပြုလုပ်ရတာဖြစ်လို့ သုတေသနခေါင်းစဉ်နှင့် ဆက်နွယ်မှုရှိတဲ့ သတင်းအချက်အလက်များ ၊ သတင်းအရင်း အမြစ်များမြောက်များစွာကို ရှာဖွေစုဆောင်းပြီး ပြုလုပ်ရမှာဖြစ်ပါသည်။

ဘာသာရေးဆိုင်ရာ၊သမိုင်းဆိုင်ရာ သုတေသနများသည် သုတေသီ၏ အဆိုပြုချက်ကို ဟုတ်မှန်ကြောင်း သက်သေပြဖို့ရန် သိပ္ပံဆိုင်ရာ သုတေသနနယ်ပယ်များမှာကဲ့သို့ စမ်းသပ်စစ်ဆေးချက်များဖြင့်ပြုလုပ်ရသည့် အမျိုးအစားမဟုတ်ပါ။ ၎င်းနယ်ပယ်တွင် မိမိတို့၏ အဆိုပြုချက်များကို ခိုင်မာပါကြောင်း၊ မှန်ကန်ပါကြောင်း ငြင်းဆန်မရသော သက်သေအထောက်အထားများဖြင့် ပံ့ပိုးပြီးအဆိုပြုချက်များကို သက်သေပြဆိုရပါသည်။ ယင်းကြောင့် ဘာသာရေးဆိုင်ရာ၊ သမိုင်းဆိုင်ရာ သုတေသနများကို သက်သေအခြေပြုသုတေသနဟုခေါ်သည်။ ယင်းသို့ သက်သေအထောက်အထားများဖြင့် တင်ပြရာတွင် အောက်ပါအတိုင်းအစိတ်အပိုင်း (၅)ခုပါဝင်ပါသည်။

## အဆိုပြုချက် အစိတ်အပိုင်း(၅)ခု (Five parts of arguments)

၁။ ကိုယ်ပိုင်အယူအဆ၊အဆိုပြုချက် (Claim/Opinion/ thesis Statement)
၂။ အကြောင်းပြချက် (Reasons)
၃။ အထောက်အထားသက်သေပြချက် (Evidence/Data)
၄။ အသိမှတ်ပြုပြီး တုံ့ပြန်ချက် (Acknowledgement and respone)
၅။ မှန်ကန်ကြောင်း ယူဆချက် (Warrant/ Principle)

ကိုယ်ပိုင်အယူအဆဆိုသည်မှာ သုတေသီတစ်ယောက်၏ကိုယ်ပိုင်ထင်မြင်ယူဆချက်၊တွေ့ရှိချက်ပင်ဖြစ်သည်။ ယင်းအကြောင်းအရာကိုရေးသည့်အခါ သူများစာအုပ်များမှ ကော်ပီကူးချခြင်းကို ရှောင်ကြဉ်ရမှာဖြစ်ပြီး ၊ မိမိ၏ကိုယ်ပိုင်ထင်မြင်ယူဆချက်သာဖြစ်ရပါမည်။ ၎င်းသည်သုတေသန အဆိုပြုချက်လည်းဖြစ်သည်။

**ဥပမာ –**

(က) ဟိုနှစ်ကပွဲမှာ မင်းအဆင်မပြေခဲ့ဘူးလို့ ကြားမိတယ်။ ဒီနှစ်ပြိုင်ပွဲမှာကော ဘယ်လိုလဲ။
(ခ) ဟုတ်ကဲ့၊ဒီနှစ်ပြိုင်ဘက်ကို အနိုင်ယူနိုင်မယ်လို့ မျှော်လင့်ထားပါတယ်။ (မိမိရဲ့ယူဆချက် **claim/ thesis /statement/opinion**)
(က) ဘယ်လိုကြောင့်များလဲ။
(ခ) ဒီနှစ်လိုအပ်ချက်တွေအတွက် ကြိုတင်ပြင်ဆင်ထားလို့ပါ။ (အကြောင်းပြချက်– **reason** )
(က) ဘယ်လိုများ ကြိုတင်ပြင်ဆင်ထားတာလဲ။
(ခ) လွန်ခဲ့တဲ့နှစ်က ရှုံးခဲ့တဲ့ပွဲစဉ်တုန်းက အားနည်းချက်တွေကိုပြန်လှန်သုံးသပ်တယ်၊သူ့အားနည်းအားသာချက်တွေကိုလည်း လေ့လာထားပါတယ်။ ပြီးတော့ ဆရာကောင်းသမားကောင်းတွေနှင့် မနားမနေလေ့ကျင့် ထားလို့ပါ။ (အထောက်အထားများ– **Evidence**)
(က) အဲလို လုပ်ထားတိုင်းနိုင်မယ်တဲ့လား။
(ခ) ဟုတ်ပါတယ်။ ကြိုတင်ပြင်ဆင်ထားတိုင်းတော့ နိုင်ကြတာချည်းတော့ မဟုတ်ပါဘူး။ ဒါပေမယ့် မလျော့တဲ့ဇွဲ ၊ ခံနိုင်ရည်စွမ်းအင် ရနိုင်ပါ

တယ်။ ကြိုးစားရင် မဖြစ်နိုင်တာမရှိဘူးဆိုသော ဆိုရိုးစကားလည်း ရှိသေးတာပဲလေ။ (တစ်ဘက်သား၏ ပြောဆိုချက်ကို လက်ခံပြီး ပြန်လည်တုန့်ပြန် ချေပချက်– **acknowledgement and response**)

(က) အဲဒါနဲ့ ဒီပြိုင်ပွဲများ နိုင်မယ်များထင်တာလား။

(ခ) လုံလောက်တဲ့ အားထုတ်မှုတွေနဲ့ ကြိုတင်ပြင်ဆင်ထားတဲ့ အရည်အချင်းတွေ ပြည့်စုံရင်တော့မရနိုင်တာမရှိပါဘူး။ (အမှန်လို့ ယူဆချက်– **warrant /principle**)

အထက်ပါ အပြန်အလှန်ပြောဆိုချက်ကို ကြည့်လျှင်မိမိ၏ရပ်တည်ချက်ဖြစ်သည့် " မနှစ်ကထက် ပိုပြီး အဆင်ပြေနိုင်တယ် " ဆိုသောရပ်တည်ချက်ကို အခြားအကြောင်းပြချက်များ ၊ အထောက်အပံ့သက်သေများပေးပြီး ခိုင်ခိုင်မာမာ ပြောဆိုထားတာကို တွေ့ရမှာပါ။

## (၁) ကိုယ်ပိုင်အယူအဆ (Claim/Thesis statement/Opinion)ဆိုသည်မှာ

အကြောင်းအရာတစ်ခုနှင့်ပတ်သက်လို့ " ဘယ်လိုထင်မြင်ယူဆသလဲ" ဆိုသော ကိုယ်ပိုင်ယူဆချက်ကို ပြောဆိုခြင်း (Claim/thesis statement/ opinion)သည် မိမိ၏ သုတေသန ပြဿနာကို ဖြေရှင်းချက်များပေးပါသည်။ ၎င်းသည် လက်ရှိ ပြဿနာနှင့် ပတ်သက်လို့ စာဖတ်သူများကို တွေးခေါ်ယူဆပုံလေးများ၊ ပြုလုပ် ဆောင်ရွက်နေပုံများကို ပြောင်းလဲဖို့လည်း ပြောဆိုပါသေးသည်၊ ထို့အပြင် ငြင်းခုံစရာလည်းကောင်းပါသည်။ ကိုယ်ပိုင်အယူအဆ (claim) တစ်ခုသည် အခြားသူများ၏စာအုပ် တွေ၊ ဆောင်းပါးတွေဆီက ဆင်းသက်လာတာမျိုး မဟုတ်ရပါ။ အခြားသူများ၏ ရေးသားချက်တွေကို ကော်ပီကူးချပြီး ရေးသားတာမျိုးလည်း မဟုတ်ရပါ။ ၎င်းသည် မိမိ၏ကိုယ်ပိုင် ထင်မြင်ချက်၊ ရပ်တည်ချက်၊တွေ့ရှိချက် သန့်သန့်သာဖြစ်ရပါမည်။
ကိုယ်ပိုင် ယူဆချက်တစ်ခုမှာ –

**(က) အကြောင်းပြချက် (Reason) များပါရမည်။**

**(ခ) သက်သေအထောက်အထားများ (Evidence/ Data) ကို အခြေခံရပါမည်။**

ကိုယ်ပိုင်အယူအဆဆိုသည်မှာ မိမိ၏ရပ်တည်ချက်ပင်ဖြစ်သည်။ယင်းသုတေသန အဖြေကို ခိုင်ခံ့အောင် အကြောင်းပြချက်၊သက်သေ အထောက်များဖြင့် ပံ့ပိုးပေးရပါမည်။

အထက်ပါ ဥပမာမှာ "ဒီနှစ် ပြိုင်ဘက်ကို အနိုင်ယူနိုင်မယ်လို့ မျှော်လင့်ထားပါတယ်" ဆိုတဲ့ ရပ်တည်ချက် ၊ထင်မြင်ယူဆချက်ဟာ သာမာန်အနေနှင့် ယုံကြည်လက်ခံစရာတော့ မကောင်းသေးပါ။ ယင်းကြောင့် ခိုင်မာတဲ့ အကြောင်းပြချက်များနှင့် သက်သေအထောက်အထားများ ပံ့ပိုးပေးဖို့ရန် လိုအပ်ပါသည်။ claim သည် စာတမ်း၏ နိဒါန်းဆက်အခန်းတွင် ဖော်ပြထားတဲ့ thesis statement/ tentative /Hypothesis ဖြစ်ပါသည်။

## Thesis statement/Claim (၄)မျိုး:

၁။ ဖြစ်ရပ်မှန်အချက်အလက်ကိုပြောဆိုတဲ့အဆိုပြုချက် (Claims of fact definition)

ယခုအဆိုပြုချက်များသည်တစ်စုံတစ်ခုကို ရှင်းလင်းဖွင့်ဆိုပြခြင်း (သို့မဟုတ်) တစ်စုံတစ်ခုဟာ ဖြစ်ရပ်မှန်တွေလားဆိုတာကို ပြောဆိုခြင်းမျိုးဖြစ်ပါသည်။

**ဥပမာ–** တချို့လူတွေပြောသည့်" ကမ္ဘာကြီးပူနွေးလာမှု" ဆိုတာဟာ တကယ်တော့ ပုံမှန် အခြေအနေထက် သိပ်ပြီးထူးခြားသည့် အရာမဟုတ်ပါ ဘူး။ ရာသီဥတုပြောင်းလဲမှု၏ ရှည်လျားလှည့်ပတ်ဖြစ်စဉ်တစ်ခုသာ။

၂။ ကြောင်းကျိုးဖြစ်စဉ်နှင့်ပတ်သက်သောအဆိုပြုချက်
(Claims of cause and effect)

လူတစ်ယောက်၊ အရာဝတ္ထုတစ်ခု(သို့မဟုတ်) အဖြစ်အပျက် တစ်ခုသည် အခြားသောလူ၊ အခြားသော အရာဝတ္ထုအဖြစ် အပျက်များကိုဖြစ်စေတယ် ဆိုတာကို ယင်း အဆိုပြုချက်များမှပြောဆိုပြတာပါ။

**ဥပမာ–** The popularity of SUVs in America has caused pollution to increase.

၃။ တန်ဖိုးနှင့်ပတ်သက်သောအဆိုပြုချက် (Claims about value)

ဒီအဆိုပြုချက်တွေဟာ တစ်စုံတစ်ခုဟာ ထိုက်တန်တယ်၊ တန်ဖိုးထားသင့်၊ မထားသင့် (သို့) တစ်စုံတစ်ခုကို ထည့်သွင်းသင့်၊ မသင့် စသည်နှင့် ပတ်သက်လို့ အဆိုပြုတာပါ။

**ဥပမာ–** ကမ္ဘာကြီး ပူနွေးလာမှုဆိုတာ ယနေ့ကမ္ဘာကြီး၏ ရင်ဆိုင်တွေ့ကြုံနေရသော ဖိအားအများဆုံးစိန်ခေါ်မှုတစ်ခုပင်ဖြစ်သည်။ (အလေးထားရမယ့် အရာလို့ပြောဆိုခြင်း)

၄။ မူဝါဒများ၊ ဖြေရှင်းချက်များများနှင့် ပတ်သက်လို့ အဆိုပြုချက်
**(Claimsabout solution or policies)**

ဒီအဆိုပြုချက်များသည် ပြဿနာတစ်ရပ်ကို ချဉ်းကပ်တဲ့ ပေါ်လစီ (သို့) ဖြေရှင်းချက် တစ်ခုကို ထောက်ခံခြင်း၊ ဆန့်ကျင်ခြင်းနဲ့ ပတ်သက်လို့ အဆိုပြုချက် များကို ပြုလုပ်ပါသည်။

**ဥပမာ–** အင်တာနက်ပေါ်ဈေးရောင်းဝယ်မှုကို အရေးယူပိတ်ပင်တားဆီးမယ့် အစား၊ငြင်းတို့နဲ့ ပတ်သက်လို့ အခြားနည်းလမ်းတွေနဲ့ စနစ်တကျ စီမံခန့်ခွဲရင်း ထိန်းချုပ်သင့်ပါသည်။ သုတေသီ၏အဆိုပြုချက်အတွက် ဘယ် claim က သင့်တော်သလဲဆိုသည်မှာ ခေါင်းစဉ်၊ အနေအထား၊ ရည်ရွယ်ထားသည့် ပရိတ်သတ်၊ စာတမ်းတွင် ပါဝင်မယ့် အရာများစသည့် အခြေအနေပေါ်မူ တည်ပါသည်။

## ၂။ အကြောင်းပြချက် (Reason) ဆိုသည်မှာ–

" ဘာလို့၊ ဘာကြောင့် အဲလိုထင်မြင်ယူဆလဲ " ဆိုသည့် အကြောင်းပြချက်ပေးခြင်း (Reason) ပင်ဖြစ်ပါသည်။

အကြောင်းပြချက်ဟာ အဆိုပြုချက်တစ်ခု ပြုလုပ်ဖို့ ကြောင်းကျိုးညီညွတ်တဲ့ အခြေခံသဘောတရားကို ထောက်ပံ့ပေးပါသည်။အကြောင်းပြချက်များဟာ မတူညီနိုင်တာမို့ ငြင်းခုံစရာကောင်းတဲ့ အရာများလည်း ဖြစ်ပါသည်။သက်သေမရှိတဲ့ အကြောင်းပြချက်ဆိုတာ ခိုင်လုံမှုမရှိ၊ ခိုင်လုံတဲ့သက်သေမရှိတဲ့ အကြောင်းပြချက် ဆိုတာ မှန်ကန်မှုလည်းမရှိ၊ မှန်ကန်မှုမရှိတဲ့အကြောင်းပြချက်ဆိုတာ ယုံကြည်လက်ခံစရာ မကောင်းပေ။ ထို့ကြောင့် အကြောင်းပြချက်များမှာ –

**(က) ခိုင်မာတဲ့ သက်သေများ၊ အထောက်အထားများဖြင့် ပံ့ပိုးပေးရပါမယ်။**

အထက်ပါ ဥပမာမှာ အကြောင်းပြချက်ဟာ "ဒီနှစ် လိုအပ်ချက်တွေ အတွက် ကြိုတင်ပြင်ဆင်ထားလို့ပါ "လို့ ပြောထားပါသည်။ သို့ပေမယ့် အကြောင်းပြချက်

ဆိုတာဟာ တစ်ခုထက်မက ရှိနိုင်ပါသည်။အကြောင်းပြချက် ဘယ်လောက်ပဲပေးစေကာမူ ယုံကြည်လက်ခံစရာ ကောင်းတဲ့သက်သေများ မပါဘူးဆိုလျှင် လက်ခံကြမှာ မဟုတ်ပါဘူး။ ဒါကြောင့် ယုံကြည်လက်ခံစရာကောင်းသော သက်သေအထောက်အထားများဖြင့် ထပ်မံပံ့ပိုးပေးရပါမည်။

**ဥပမာပုံစံများ–**

Liberal arts အကောင်းဆုံးပဲဖြစ်တယ် (Claim)။ ဘာလို့ အဲလိုပြောနိုင်လဲလို့ မေးခွန်းတက်လာမယ်။ ဒီတော့ အကြောင်းပြချက် ပေးရမည်။

အကြောင်းပြချက်က –

အဘယ့်ကြောင့်ဆိုသော် ၎င်းသည် ကျောင်းသားများကို လွတ်လွတ်လပ်လပ်တွေးခေါ်ယူဆတတ်အောင် သင်ပေးလို့ပင်ဖြစ်သည်။

**အခြားသောဥပမာများ –**

1. That was Newman's best (claim) because it presented the most difficult role. (reason)
2. Global warming is real (claim) because the most reputabhle science points in that direction.(reason)
3. Everyone should stop wearing seat belts (claim) because it would save lives. (reason)

**၃။ သက်သေအထောက်ထားများ (Evidence /Data)ဆိုသည်မှာ–**

"အမှန်ဖြစ်ပါတယ်ဆိုတာကို ဘယ်လိုသိတာလဲ" ဆိုတဲ့ သက်သေပြခြင်း၊ (Evidence)မျိုးပင်ဖြစ်ပါသည်။ အဆိုပြုချက်ကို အကြောင်းပြချက်ပေးရုံနှင့် မလုံလောက်တာကြောင့် သက်သေအထောက်အထားများဖြင့် ပံ့ပိုးရတာပါ။

**၎င်းသက်သေများမှာ –**

**(က) သိသာထင်ရှားတဲ့၊ ငြင်းဆိုမရနိုင်တဲ့အထောက်အပံ့ အချက်အလက်များပါဝင်ရပါတယ်။**

ဥပမာတွင် သက်သေ၊ အထောက်အထားကို "လွန်ခဲ့တဲ့နှစ်က ရှုံးခဲ့တဲ့ ပွဲစဉ်ရဲ့ အားနည်းချက်တွေကို ပြန်လှန်သုံးသပ်တယ်၊ သူ့အားနည်း/ အားသာချက် တွေကိုလည်း လေ့လာထားပါတယ်။ ပြီးတော့ ဆရာကောင်း သမားကောင်းတွေနှင့် မနားမနေ

လေ့ကျင့်ထားလို့ပါ"ဟု ပြောဆိုထားပါသည်။ ယင်းမှာယုံကြည်လက်ခံလို့ ရကောင်းတဲ့ သက်သေများပင်ဖြစ်သည်။ သို့ရာတွင် သက်သေများကို အများတကာအမှန်လို့ ယူဆထားတဲ့အချက်အလက်များဖြင့် ပံ့ပိုးပြောဆိုဖို့ရန် လိုအပ်ပါသည်။

**ဥပမာ ပုံစံ (၁)**

(က) အမေရေ ၊ အမေ့ဖုန်းအသစ်ကြီးကို သား လိုအပ်နေတယ်။ (အဆိုပြုချက်)

(ခ) သားဖုန်းမှာ အင်တာနက်လိုင်းမရဘူး။ (အကြောင်းပြချက်)

(ဂ) သားသူငယ်ချင်းဖုန်းမှာ အင်တာနက်ရတော့ စာတွေလုပ်ရတာ အဆင်ပြေလို့ " နံပါတ်ဝမ်း " မှာပဲရှိနေတယ်။ (သက်သေအထောက်အထား)

**၄။ အသိအမှတ်ပြုပြီး ပြန်လည်ချေပချက် (acknowledgment and response) ဆိုသည်မှာ –**

"အခြား ဘာထင်မြင်ယူဆချက်များ ပေးနိုင်သေးသလဲ "ဆိုတဲ့ အသိအမှတ်ပြုပြီး ပြန်လည်တုန့်ပြန်ခြင်း သို့မဟုတ် အသိအမှတ်ပြုခြင်း၊ ပြန်လည်တုန့်ပြန်ခြင်း ဖြစ်ပါသည်။ Acknowledgement and/ or a Response ဆိုတာ မိမိရဲ့ claim အား အခြားတစ်စုံတစ်ယောက်က counterclaim ပြုလုပ်မှုကို အသိအမှတ် ပြုပေးပါသည်။ တန်ပြန်ဖြေဘင့်ချက်ပေးသည့်အခါမှ ၎င်းဖြေဘင့်ချက်ကို လက်ခံပြီး ပြန်လည်တုန့်ပြန် ပြောဆိုခြင်းမျိုးဖြစ်တာကြောင့် တုန့်ပြန်ဖြေဘင့်ချက် မလုပ်ဘူးဆိုရင် ဒီအချက်က မပါဝင်နိုင်ပါ။ Response ကတော့ counterclaim အား သဘောတူမှုအဆင့်ကို ရည်ညွှန်းပြတာပါ။ တုန့်ပြန်ချက်သည်လည်း ထိုနည်းတူပင်ဖြစ်သည်။ သုတေသီ၏ အကြောင်းပြချက်နှင့် သက်သေအထောက်များကို စာဖတ်သူများက အလွယ်တကူ လက်ခံပေးကြမည်တော့ မဟုတ်ပါ။ ယင်းကြောင့် တစ်ခါတရံ သုတေသီတင်ပြတဲ့ အဆိုပြုချက်နှင့် မတူညီသောအယူအဆ၊ အဆိုပြုချက် အသစ်တစ်ရပ်ကို တင်ပြကောင်း တင်ပြလာတတ်ပါသည်။ ဒါကိုပင် တန်ပြန်အဆိုပြုချက် (counterclaim) လို့ခေါ်ပါသည်။ ယင်းကြောင့် မိမိ၏အကြောင်းပြချက်နှင့် ဆန့်ကျင်ဘက် ရှုထောင့်များမှလည်း မိမိကိုယ် ကို သုံးသပ်၊ ဝေဖန်ရင်း (နောက်တနည်းနဲ့ ခုလိုပြောလာရင် ဘယ်လိုပြန်ပြော မလဲဆိုသည့်) အဖြေထုတ်ထားဖို့၊ ကြိုတင်တွေးထားဖို့ လိုအပ်ပါလိမ့်မည်။ ယင်းသို့ တန်ပြန်ယူဆချက်တစ်ရပ်ဖြင့် ပြောဆိုလာတဲ့အခါ လက်ခံပြီး မိမိရဲ့ အဆိုပြုချက်ဟာ

ခိုင်မာမှုရှိကြောင်းကို အခြားတနည်းဖြင့် ပြန်လည်တုံ့ပြန် ပြောဆိုရပါမည်။ ယင်းသို့ ပြောဆိုခြင်းကို အသိမှတ်ပြုပြီး ပြန်လည်ချေပခြင်း (acknowledgement and response) လို့ခေါ်ပါတယ်။ စာဖတ်သူများအနေနဲ့ **ပထမဆုံးတုံ့ပြန်ပြောဆို မေးခွန်းထုတ်နိုင်တဲ့ အကြောင်းကတော့ –**

အဆိုပြုချက်၏အတွင်းပိုင်းထဲက ပြဿနာကြောင့်ပင်ဖြစ်သည်။ ပုံမှန် ကတော့ သက်သေအထောက်ထားကြောင့်ပါ။

**ဥပမာ–**

၁။ သုတေသီ၏ သက်သေအထောက်ထားများဟာ ယုံကြည်လက်ခံရာမကောင်း (သို့) ခေတ်ဟောင်းနေပြီဖြစ်တဲ့ အချက်အလက်များဖြစ်နေခြင်း။

၂။ တိကျမှန်ကန်မှု မရှိခြင်း။

၃။ ပြည့်စုံလုံလောက်တဲ့ အထောက်အထား မဟုတ်ခြင်း။

၄။ သုတေသီရဲ့ နယ်ပယ်အတွက် မှားယွင်းတဲ့ သက်သေအထောက်များ ဖြစ်နေခြင်း။

၅။ သက်သေအထောက်အထားများအနေနဲ့ ရှင်းလင်းပြထားတာ မဟုတ်တဲ့ အတွက်ကြောင့် ယုတ္တိမရှိခြင်း။

၆။ သုတေသီရဲ့အကြောင်းပြချက်များဟာ ကြောင်းကျိုးညီညွတ်မှုမရှိ ၊ဆန့်ကျင်နေခြင်း။

၇။ အဆိုပြုချက်ကို ထောက်ပံ့ဖို့ အားနည်းလွန်း ၊ နည်းပါးလွန်းနေခြင်း။

၈။ အကြောင်းပြချက်များဟာ အဆိုပြုချက်အတွက် ကြောင်းကျိုးခိုင်လုံမှုမရှိခြင်း။

စတဲ့အကြောင်းများကြောင့် ထိုးနှက်မေးမြန်း၊ ဝေဖန်လေ့ရှိကြပါသည်။ ၎င်းကို Internal Criticism လို့ခေါ်ပါသည်။

**ဒုတိယ ဆန့်ကျင်ဘက် အဆိုပြုချက်ပေါ်လာနိုင်တာကတော့** သုတေသီ၏ အပြင်ဘက်စည်းကပင် ဖြစ်ပါသည်။ ၎င်းကို External Criticism လို့ ခေါ်ပါသည်။ မတူညီသောအမြင်သဘောများနှင့် ကြည့်တတ်သောသူများသည် မတူညီသော အဆိုပြုချက်များ၊ မတူညီသောအကြောင်းပြချက်တွေ ပြုလုပ်ဖို့ အလားလာရှိကြစမြဲ ဖြစ်ပါသည်။ သုတေသီပေးထားသော သက်သေအထောက်အထားတွေတောင် မခိုင်လုံဘူးလို့တောင် ပြောဆိုနိုင်ကြပါသေးသည်။ သုတေသီနှင့် စာဖတ်သူတွေကြား မတူညီသော အမြင်တွေရှိတယ်ဆိုလျှင် ၎င်းတို့၏အမြင်ကို လက်သင့်ခံပေးပြီး ကောင်းမွန်စွာ တုန့်ပြန်ပြောဆိုရပါမည်။ ကန့်ကွက်မှုများ၊ ငြင်းပယ်မှုများ အနေနှင့် မမြင်ပဲ မတူညီတဲ့အမြင်ဟုသာ ပြုမူဆောင်ရွက်ရပါမည်။

တကယ်လို့ မိမိ၏ အဆိုပြုချက်များ၊အကြောင်းပြချက်များ၊ သက်သေအထောက်ထားများသည် မှန်ကန်ပြီး သူတို့၏အဆိုပြုချက်၊ အကြောင်းပြချက်၊ သက်သေ အထောက်အထားများသည် မှားတယ်လို့ ငြင်းခုံတယ်ဆိုလျှင်စာဖတ်ပရိတ်သတ် မြောက်များစွာ ဆုံးရှုံးသွားပါလိမ့်မည်။ ယင်းအစား မတူညီတာကို မတူညီသောအမြင် များအနေနှင့်လက်သင့်ခံရပါမည်။ ပြီးနောက် မိမိ၏အဆိုပြုချက်ကို စာဖတ်သူများ နားလည်သဘောပေါက်အောင် ၎င်းတို့နဲ့ နှိုင်းယှဉ်ပြောဆိုရပါမည်။ အစပထမမှာ သုတေသီ၏အဆိုပြုချက်ကိုလက်မခံပဲ နေကောင်းနေကြပါလိမ့်မည်။

သို့ပေမယ့် ၎င်းတို့၏အမြင်ကို နားလည်သဘောပေါက်ပြီး လေးစားမှု ရှိကြောင်း ပြသရပါမည်။ ထိုနည်းဖြင့် သူတို့သည် သုတေသီ၏အမြင်ကိုလည်း နားလည်သဘောပေါက်ပြီး လေးစားဖို့ ပိုပြီးအလားအလာရှိပါလိမ့်မည်။သို့ပေမယ့် အတွေ့အကြုံမရှိသေးသောသုတေသီတစ်ယောက်အတွက် ဒီလိုလုပ်ရတာ ခက်ခဲနိုင်ပါသည်။

**ဥပမာ**–(က) အဲလိုလုပ်ထားတိုင်း နိုင်မယ်တဲ့လား။

(ခ) ဟုတ်ပါတယ်။ကြိုတင်ပြင်ဆင်ထားတိုင်းတော့ နိုင်ကြတာချည်းတော့ မဟုတ်ပါဘူး။ဒါပေမယ့် မလျော့တဲ့ဇွဲ ခံနိုင်ရည်စွမ်းအင်ရှိရင်ရနိုင်ပါတယ်။ ကြိုးစားရင် မဖြစ်နိုင်တာမရှိဘူးဆိုတဲ့ စကားလဲရှိသေးတာပဲလေ။ (တစ်ဘက်သားရဲ့ ပြောဆိုချက်ကို လက်ခံပြီးပြန်လည် တုံ့ပြန်ချေပချက်။ **(acknowledgement and respone)** အထက်ပါ ဥပမာတွင် အမြင်မတူတဲ့ လူတစ်ယောက်ရဲ့ ပြောဆိုချက်ကို လက်သင့်ခံပြီး တုံ့ပြန်ပြောဆိုထား တာတွေ့ရမှာပါ။

## ၅။ မှန်ကန်ကြောင်း အာမခံချက် (warrant) ဆိုသည်မှာ –

ထင်မြင်ယူဆမှုတစ်ခုသည် မှန်ကန်ကြောင်း၊ လောကသဘာဝ လက်ခံထားသည့် အမှန်တရားများကို Warrant /Principle လို့ ခေါ်ပါသည်။ claim ဆိုသည်မှာ ခိုင်ခိုင်မာမာ ပြောဆိုထားသော အရာကိုဆိုလိုပြီး၊ ၎င်းအဆိုပြုချက်ကို ထောက်ပံ့ပေးသော အရာကို အကြောင်းပြချက် (reason)လို့ခေါ်ပါသည်။ အဆိုပြုချက် အားလုံးသည် ရှင်းပြမရသည့် ယုံကြည်မှု၊ တွေးခေါ်ယူဆမှုကို အခြေခံထားတာ ဖြစ်ပါသည်။ ၎င်းယုံကြည်မှု ၊ တွေးခေါ်ယူဆမှုကိုပင် warrant လို့ ခေါ်ပါသည်။ တစ်နည်းပြောရလျှင် warrant ဆိုတာ အယူအဆ(သို့)အဆိုပြုချက်၊ အကြောင်းပြချက်နှင့် သက်သေ

အထောက်အထားတို့ကြားက ကြောင်းကျိုးဆီလျော် ဆက်စပ်ပေးမှုကို ခေါ်ပါသည်။

" The Carft of Research " စာအုပ်တွင် warrant ကို အဆိုပြုချက်နှင့် အကြောင်းပြချက်အား ဆက်စပ်ပေးတဲ့အရာလို့ ဖော်ပြထားပါသည်။ တနည်းပြောရလျှင် တစ်စုံတစ်ယောက်က အယူအဆ (သို့) အဆိုပြုချက်တစ်ခုကိုပြုလုပ်မယ်ဆိုလျှင် ၎င်းအယူအဆ(သို့)အဆိုပြုချက်ကိုထောက်ပံ့ပေးဖို့ ကြောင်းကျိုးဆီ လျော်သည့် အကြောင်းပြချက်များရှိရမယ်(သို့) လုံလောက်တဲ့ သက်သေအထောက်အထားရှိရမည်။ အကြောင်းပြချက်များသည် ခိုင်လုံတဲ့သက်သေများစွာ လိုအပ်ပါသည်။ ခိုင်လုံသော သက်သေအထောက်အထားများ၊ အယူအဆ(သို့)အဆိုပြုချက်နှင့် အကြောင်းပြချက်တို့ကြား ဆက်နွယ်မှုကိုဖော်ပြသော အမှန်ယူဆချက် (warrant)အား ကောင်းမွန်စွာ လက်မခံဘူးဆိုလျှင် အဆိုပြုချက်၏ အကြောင်းပြချက်နှင့် ပတ်သက်လို့ သဘောတူလက်ခံဖို့ရာအကြောင်း မရှိတော့ပါ ဟုဆိုပါသည်။

**ဥပမာ –**

အအေးဒီဂရီက သုညဒီဂရီ ၅ ပဲရှိတယ်။ (အကြောင်းပြချက်)
ဒါကြောင့် ဦးထုပ်ဆောင်ထားသင့်တယ်။ (အဆိုပြုချက်)

အထက်ပါ အဆိုပြုချက်မှာ အကြောင်းပြချက်ဟာ ယုတ္တိရှိတယ်၊ ခိုင်လုံတဲ့ အထောက်အထားရှိနေပြီ။ ဒါကြောင့် သီးသန့်သက်သေအထောက်အထားနှင့် ရှင်းပြဖို့ မလိုတော့ပါ။ ဒါပေမယ့် စာဖတ်သူက ထူးထူးခြားခြား မေးခွန်းကိုမေးလာနိုင်ပါတယ်။

**ဥပမာ–**

အအေးက သုညဒီဂရီ ၅ အောက်ပဲ ရှိတယ်ဆိုတာဘာလဲ။ ပြီးတော့ ဦးထုပ်ဆောင်းထားရမယ်ဆိုတာက ဘာကိုဆိုလိုတာလဲ။ ဒီမေးခွန်းကို အမှန်ယူဆချက် (warrant) နဲ့ ဖြေဆိုနိုင်ပါသည်။

**ဥပမာ–**

အေးတဲ့အခါ လူတွေက နွေးနွေးထွေးထွေးရှိဖို့ အနွေးထည်ဝတ်ကြသည်။ ဒီဝါကျဟာ အမှန်ယူဆချက်(warrant)ပင်ဖြစ်သည်။ ၎င်းသည် အတွေ့ကြုံကို အခြေခံထားတဲ့ အမှန်တရားကို ရှင်းပြပါသည်။ ဒီဝါကျမှာ ယေဘုယျ အခြေအနေ(အေးခြင်း) နှင့် အကျိုးဆက်တွေက (အနွေးထည်ဝတ်ရမယ်) မှန်ကန်နေပါသည်။

အမှန်ယူဆချက်တွင်–

ယေဘုယျအခြေအနေတစ်ရပ်ဖြစ်တဲ့ "အေးနေတယ်"ဟူသော စကားရပ်သည် ယေဘုယျ အကျိုးဆက်တစ်ခု " အနွေးထည်ဝတ်ရမယ်"ကို ထောက်ပံ့ပေးပါသည်။ ယေဘုယျအမှန်တရား " အေးတဲ့အခါ လူတွေဟာ အနွေးထည်ဝတ်ကြတယ်" ဆိုတာ အမှန်တရားအဖြစ်ရှင်းပြပါသည်။ အသေးစိတ်အကြောင်းပြချက်ဖြစ်သော "အအေးဒီဂရီဟာ သုညဒီဂရီ ၅အောက်ရသည်" ဆိုသည်မှာ ယေဘုယျအခြေအနေ " အေးတယ် " ၏ယုတ္တိရှိတဲ့ ဖြစ်စဉ်ဖြစ်ပါသည်။ အသေးစိတ်ဖြစ်သော အဆိုပြုချက် " ဦးထုပ်ဆောင်း ရမယ်" ဆိုသည်မှာ " လူတွေက အနွေးထည်ဝတ်ကြစမြဲ " ဆိုသော ယေဘုယျ အကျိုးဆက်၏ ယုတ္တိရှိတဲ့ဖြစ်စဉ်တစ်ခုဖြစ်ပါသည်။ Warrant တွင် ရှိနေသော ယေဘုယျ အချက်အလက်များသည် မှန်ကန်ပြီး ၊အကြောင်းပြချက်နှင့် အဆိုပြုချက်သည်လည်း ယုတ္တိရှိတာမို့ warrant ဟာ မှန်ကန်သည်။ "ဦးထုပ်ဆောင်းပါ" ဆိုသော အဆိုပြုချက်သည်လည်း ယုတ္တိရှိပါသည်။

**အခြားဥပမာပုံစံ (၂)**

- ခင်ဗျားနားကြပ်တပ်ဖို့ လိုအပ်တယ်။ (အဆိုပြုချက် )
- အသက် ၆၅ နှစ်ကျော်တဲ့ လူအားလုံးရဲ့ ၇၀ ရာခိုင်နှုန်းလောက်ဟာ အကြားအာရုံနဲ့ပတ်သက်လို့ အခက်အခဲရှိကြတယ်။ (အကြောင်းပြချက်)
- နားကြပ်ဟာ လူတွေကို ကောင်းကောင်းကြားစေဖို့ ကူညီပံ့ပိုးပေးပါတယ်။ (အမှန်ယူဆချက်)

**ဥပမာ ပုံစံ (၃)**

- Some boys are leaving school at a disadvantage .(claim)
- Because they have fallen behind their female peers. (Reason)
- Success at school is strongly correlated with life opportunties (work, futher education ) .(Warrant)

**ဥပမာ ပုံစံ (၄)**

- ကျွန်တော်က အမေရိကန်တစ်ယောက်ပါ။ (အယူအဆ၊ အဆိုပြုချက်)
- ဘာလို့လဲဆိုတော့ ကျွန်တော်က အမေရိကန်မှာမွေးတာမို့လေ။

(အကြောင်းပြချက်)

- ကျွန်တော့်ကို မွေးတဲ့အချိန် အမေက အမေရိကန်နိုင်ငံသားဖြစ်နေခဲ့ပါပြီ။ (သက်သေပြအထောက်အထား)
- အမေရိကန်နိုင်ငံမှာ မွေးတဲ့လူတိုင်းဟာ တရားဝင် အမေရိကန်နိုင်ငံသား ဖြစ်ကြစမြဲပါပဲ။ (အမှန်ယူဆချက်)

## အဆိုပြုချက်တစ်ရပ်ကို လက်ခံနိုင်မယ့်အင်္ဂါရပ်များ

၁။ Warrant မှန်ကန်ရပါမည်။

၂။ အသေးစိတ်အကြောင်းပြချက်မှန်ကန်ရပါမည်။

၃။ အသေးစိတ်အကြောင်းပြချက်ဟာလည်း ယေဘုယျအကြောင်းပြချက်၏ ယုတ္တိရှိတဲ့ ဖြစ်စဉ်ဖြစ်ရမည်။

၄။ အသေးစိတ် အဆိုပြုချက်ဟာ ယေဘုယျအကျိုးဆက်တစ်ခု၏ ယုတ္တိရှိသော ဖြစ်စဉ်တစ်ခုဖြစ်ရမည်။

## သက်သေအခြေပြုအဆိုပြုချက်နှင့် အမှန်တရားအခြေပြုအဆိုပြုချက်ကို ခွဲခြားခြင်း

စာဖတ်သူတို့က မတူခြားနားတဲ့ နည်းလမ်းတွေနဲ့ ဆုံးဖြတ်ချက်ချတဲ့ အဆိုပြုချက်(၂)မျိုး ရှိပါသေးသည်။ယင်းသည်လည်း မှတ်သားဖို့ အင်မတန်အရေးကြီးသည်။

၁။ တစ်ခုက အဆိုပြုချက်တစ်ရပ်ဟာ reason နဲ့ warrant ထဲမှာရှိတဲ့ အဆိုပြုချက်ကို ရည်ညွှန်းပါသည်။ဒီအဆိုပြုချက်ဟာ လုံးဝမှန်ကန်ပါတယ်လို့ ယုံကြည်ကြသည့်သဘော။

၂။ နောက်တစ်ခုကတော့ သက်သေအခြေပြုအကြောင်းပြချက်ကို အခြေခံတဲ့ အဆိုပြုချက်ပင်ဖြစ်သည်။ ယင်းအဆိုပြုချက်သည် မှန်ကန်ကောင်း မှန်ကန်နိုင်သည်။ (လုံးဝတော့ မသေချာဘူး)လို့ ယူဆကြသည့်သဘော။

အထက်ပါအချက်နှစ်ခုဟာ ဆန့်ကျင်ဘက်သဘောဆောင်မည့် ပုံပေါ်ပေမယ့်၊ သုတေသီများဟာ ဒုတိယ အဆိုပြုချက်(သက်သေအခြေပြု) အမျိုးအစားကိုသာ ပိုပြီးယုံကြည်အလေးထားကြပါသည်။ယင်းအဆိုပြုချက်သည် သက်သေအခြေပြုအကြောင်းပြချက်ကိုသာ အခြေခံပြုထားခြင်းဖြစ်သည်။

**ဥပမာ –**

၁။ ဆေးထိုးအပ် ပြောင်းလဲသုံးစွဲခြင်း အစီအမံတွေဟာ မြောက်များစွာသော ဆေးဝါးသုံးစွဲမှုကို ဖြစ်စေပါသည်။ (အဆိုပြုချက်)

၂။ ဆေးထိုးခံရသူတွေဟာ ဆေးထိုးအပ်ကနေတစ်ဆင့် ရောဂါကူးစက်နိုင်မှု အခြေအနေကို ရှောင်းရှားနိုင်တယ်ဆိုတာ နားလည်သိရှိလာကြတဲ့အခါ သူတို့တွေဟာ ဆေးဝါးတွေကို ပိုပြီးသုံးစွဲဖို့ တိုက်တွန်းအားပေးခြင်း ခံစားရကြပါသည်။ (အကြောင်းပြချက်)

၃။ ဆေးထိုးအပ်မှ တစ်ဆင့် ကူးစက်တတ်တဲ့ရောဂါတွေကို ကာကွယ်ပေးနိုင်တယ်လို့ ခံစားမိတာကြောင့် ၃၄% လောက်သာ သုံးစွဲသူတွေဟာ တစ်ပတ်အတွင်းမှာ သူတို့ရဲ့ ဆေးဝါးသုံးစွဲမှုပမာဏ ၁ ဒသမ ၇% မှ ၂ ဒသမ ၁% မျှ မြင့်တက်သွားခဲ့တယ်လို့ ဆေးထိုးအပ်ပြောင်းလဲသုံးစွဲမှုအစီအမံတွေထဲ ပါဝင်ခဲ့တဲ့ သူတွေကို မှတ်တမ်းတင်လေ့လာထားတဲ့ သုတေသနတစ်ရပ်က ဆိုထားပါသည်။ (သက်သေပြချက်)

အထက်ပါ ဥပမာမှာ သက်သေပြချက်ဟာ ထိရောက်တယ်၊ ခိုင်မာတယ်လို့ ယူဆရင် အဆိုပြုချက်ဟာ ကြောင်းကျိုးညီညွတ်ပြီး လက်ခံလို့ရပါသည်။ ဒါပေမယ့် အကြောင်းကြောင်းကြောင့် မသေချာဘူးဖြစ်တတ်ပါသည်။ ဘာဖြစ်လို့လည်း ဆိုတော့ လက်ရှိ ဒီနေရာမှာ တင်ပြထားတဲ့ သက်သေထက် ပိုကောင်းပြီး၊ သစ်လွင်တဲ့ သက်သေတစ်ခုကို တစ်စုံတစ်ယောက်က တွေ့ရှိကောင်း တွေ့ရှိနိုင်သေးလို့ပင်ဖြစ်ပါသည်။

ဒုတိယအဆိုပြုချက်ဟာလည်း တူညီတဲ့အကြောင်းပြချက်ကို အခြေပြုပြီး ပြုလုပ်ထားတာပါ။ သို့ပေမယ့်အဆိုပြုချက်ကို သက်သေအထောက်အထားနဲ့ ပံ့ပိုးထားတာ မဟုတ်ပဲ၊ ယုတ္တိ(**logic**)နှင့် ထောက်ပံ့ပေးထားတာမျိုးဖြစ်ပါသည်။ **warrant** နှင့် **reason** သာ မှန်ကန်မယ်ဆိုလျှင်၊ ပြီးတော့ **reason** နှင့် အဆိုပြုချက် **claim** တွေသာ **warrant** ၏ယုတ္တိရှိတဲ့ဖြစ်စဉ်ထဲမှာ ရှိနေတယ်ဆိုလျှင် အဆိုပြုချက်ဟာလည်း မှန်ကန်မှာမလွဲပါ။

**ဥပမာ–**

၁။ ဆေးထိုးအပ်ပြောင်းလဲသုံးစွဲခြင်း အစီအမံဟာ မြောက်များစွာသော ဆေးဝါး သုံးစွဲမှုကို ဖြစ်စေပါသည်။ (အဆိုပြုချက်)

၂။ ဆေးထိုးခံရသူတွေဟာ ဆေးထိုးအပ်ကနေတစ်ဆင့် ရောဂါကူးစက်နိုင်မှု အခြေအနေကို ရှောင်ရှားနိုင်တယ်ဆိုတာ နားလည်သိရှိလာကြတဲ့အခါ သူတို့တွေဟာ ဆေးဝါးတွေကို ပိုပြီးသုံးစွဲဖို့ တိုက်တွန်းအားပေးခြင်း ခံစားရကြပါသည်။ (အကြောင်းပြချက်)

၃။ စွန့်စားရမယ့် အခြေအနေတွေကို လျှော့ချလိုက်တဲ့အခါတိုင်းမှာ (အန္တရာယ် မဖြစ်အောင်လုပ်လိုက်တဲ့အခါတိုင်းမှာ) လူတွေဟာ အဲဒီလုပ်ငန်းထဲ ပိုပြီးပူးပေါင်း ပါဝင်လုပ်ဆောင်ကြတတ်စမြဲပါ။ (အမှန်ဟု ယူဆချက်)

## မိမိ၏ ရပ်တည်ချက်ကို အဆင့်ဆင့်တင်ပြခြင်း။

စာပိုင်းတွင်ဖော်ပြထားသည့်အတိုင်း စာကိုယ်ကို ရေးသားရာတွင် အစိတ်အပိုင်း (၅)ချက် သို့မဟုတ် (၆)ချက်ရှိသည်။ သုတေသီသည် အစောပိုင်း ကတည်းက မိမိရဲ့ ရပ်တည်ထားတဲ့အတိုင်း စာကိုယ်တွင် အထောက်အပံ့များ၊ ပယ်ချမှု၊ တန်ပြန်အကြောင်းပြချက်များပေးမှုစတဲ့ ယုတ္တိကျသော သက်သေများ ပေးကာ စနစ်တကျ ရေးသား တင်ပြရမည်။

သုတေသီ၏ရပ်တည်ချက်သည် ဗုဒ္ဓခေတ် မိန်းကလေးတိုင်းဟာ နှိမ်ချစွာ ဆက်ဆံခြင်းမခံခဲ့ရဘဲ သာတူညီမျှဆက်ဆံမှုများရှိခဲ့သည် ဆိုသော အချက်ပင်ဖြစ်သည်။ ၎င်းသည် သုတေသီရဲ့ ရပ်တည်ချက် **(Claim/argument/ thesis statement)** ဖြစ်သည်။ ယင်းသို့ပြောဆို တင်ပြရာတွင် – ဘယ်လိုအကြောင်းပြချက်များကြောင့် ယင်းသို့ ပြောဆိုနိုင် သနည်းဆိုတဲ့မေးခွန်းများ ပေါ်ထွက်လာပေမည်။ သို့အတွက် – ခိုင်မာတဲ့ အကြောင်းပြ ချက်များကို ထပ်မံပေးရမည်။ ဥပမာ – အိန္ဒိယနိုင်ငံတွင် ရှေးယခင်ကတည်းက အမျိုးသမီးများအား ချိုးနှိမ်စွာဆက်ဆံမှု၊ အိမ်ဖော်လိုခိုင်းစေမှုများရှိပြီး အခွင့်အရေးများ ချိုးဖောက်ခဲ့သည်ဟု ဆိုထားပေမယ့် ဗုဒ္ဓခေတ် အမျိုးဇာတ် (၄)ခု ကွဲပြားရာတွင် ခေတ္တိယမျိုးနွယ်မှ ပေါက်ဖွားလာကြသော မင်းသမီးများသည် လင်ယောကျ်ားတို့ရဲ့ အလေးပေးခြင်း၊ ချစ်မြတ်နိုးခြင်း စသည်တို့ ခံစားရပြီး အခြားသော အမျိုးဇာတ်မှပေါက်ဖွားလာကြသော မိန်းကလေးများတို့လို အမျိုးသမီးအခွင့် အရေးချိုး

ဖောက်ခံရမှုများမရှိသည်ကို တွေ့ရသောကြောင့်ဖြစ်သည်။ (ကိုးကား---) အထက်ပါ အချက်အလက်သည် သုတေသီရဲ့ အကြောင်းပြချက် (Reason) ဖြစ်သည်။ သို့ရာတွင် အကြောင်းပြချက်သည် ခိုင်မာသော သက်သေဟုကား ပညာရှိများ လက်ခံကြသည် မဟုတ်ပါ။ ယင်းကြောင့် ဖော်ပြထားသော အကြောင်းပြချက်များကို ခိုင်မာအောင် ကျမ်းကိုးအထောက်အထား သက်သေများဖြင့် ထပ်ဆင့်ထောက်ပံ့ပေးရမည်ဖြစ်သည်။ ဥပမာ –မိထွေးတော် ဂေါတမီသည် သုဒ္ဓေါဓနေ မင်းမြတ်၏ ချစ်ခင်စုံမက်ခြင်းခံရသော မိဖုရားတစ်ပါးဖြစ်ကြောင်း သုတ္တန်---တို့တွင် တွေ့ရသည်။ (ကိုးကား-- ) ထို့အပြင် အခြားသော မှူးကြီးမတ်ကြီးများတို့၏ လေးစားမြတ်နိုးမှုကိုလည်း ခံစားခဲ့ရသည်။ (ကိုးကား--) ၎င်းသည် သုတေသီ၏ သက်သေပြချက် (Evidence/data/Support) ပင်ဖြစ်သည်။ ၎င်းသို့အကိုးအကားများ ခိုင်မာစွာပြသပေမယ့် လက်မခံလိုသော ဆန့်ကျင်ဘက် ပုဂ္ဂိုလ်များသည် အမြဲတမ်းရှိသည် ကို သတိပြုရမည်။ ယင်းပုဂ္ဂိုလ်များဟာ သုတေသီရဲ့ တင်ပြချက်များနှင့်မတူသော အမြင်များဖြင့် တင်ပြကြမည်။ လုံး၀ ဆန့်ကျင်သော အယူအဆများပေးကာ သုတေသီရဲ့ အဆိုကို ကန့်ကွက်ငြင်းဆိုကြ သူများရှိပေမည်။ ယင်းအဆိုများကို ပညာရှင်ပီပီ လက်သင့်ခံနားထောင်ပေးရမည်။ သူတို့ရဲ့ အဆိုဟာမှားတယ်။ မိမိရဲ့ အဆိုသာလျှင် မှန်ကန်တယ်လို့ ပြောင်ပြောင် တင်းတင်း မငြင်းဆိုရ။ လက်သင့်ခံနားထောင်ခြင်းသည် ၎င်းတို့အဆိုကို လုံး၀သဘောတူ သည်ဆိုတဲ့ အဓိပ္ပာယ်မျိုးမသက်ရောက်ပါ။ ယင်းကိုပင် အသိမှတ်ပြုခြင်း (acknowledgement) လို့ခေါ်သည်။ ပြီးနောက် မိမိ၏အဆိုပြုချက်သည် ဤအချက် အလက်များကြောင့် မှန်ကန်ပါသည်။ လက်ခံသင့်ပါသည်ဟု ၎င်းတို့အဆိုကို ဆန့်ကျင်ကာမိမိအဆိုအပေါ်မှာသာ တဖန်ပြန်လည်ရပ်တည်ပြီး ပြောဆိုတင်ပြရပေမည်။ ၎င်းကိုပင် တန်ပြန်ရပ်တည်ချက် (Counter Claim/ Response) လို့ ခေါ်ကြပါသည်။

ဗုဒ္ဓရဲ့ ကံအယူအဆနှင့် ဟိန္ဒူကျမ်းလာ ကံအယူဆဟာ လုံး၀မတူညီသော ကြောင့် ဗုဒ္ဓ၏ ကံအယူအဆသည် ဟိန္ဒူအယူအဆမှ ဆင်းသက်လာခြင်းမှာ မဟုတ်ပါပေ။ (ရပ်တည်ချက်) အဘယ့်ကြောင့်ဆိုသော် ဗုဒ္ဓသည် ဟိန္ဒူအယူအဆများ လွှမ်းမိုးထားသော ခေတ်ကာလတွင် မွေးဖွားကြီးပြင်းလာသော လူသားတစ်ဦး မှန်ပါသော်လည်း၊ ၎င်းသည် ကိုယ်ပိုင်ဉာဏ်ဖြင့် ထိုးထွင်းသိမြင်ပြီး ဟောကြားခဲ့ခြင်း ဖြစ်သည်။ တဆင့်ခံကြားနာပြီး ဟောကြားထားသော အယူအဆများမဟုတ်ပါ။

(အကြောင်းပြချက်)

ဗုဒ္ဓရဲ့ကံအယူအဆ သည် --------------------- ဖြစ်သည်။ (ထောက်ပံ့ချက်) သို့ပေမယ့် ဟိန္ဒူအယူအဆတွင်လည်း ကံတရားနှင့် ပတ်သက်ပြီး ဟောကြားရာတွင် ပြုသမျှ ကောင်းကံ ဆိုးကံ တို့သည် နောင်တမလွန်ဘဝများအတွက် ကောင်းမွေ ဆိုးမွေများ ဖြစ်လာကြပြီး မိမိတို့သည် ခံစား/စံစားရသည်ဟု ရေးသားတင်ပြထားသည်ကို တွေ့ရသောကြောင့် ဗုဒ္ဓ၏ကံအယူအဆနှင့် ဟိန္ဒူကျမ်းလာ ကံအယူအဆတို့ ဆင်တူနေကြသည် မဟုတ်ပါလော။ (စောဒကတက်ခြင်း) မှန်ပါသည်၊ သို့ပေမယ့် ဗုဒ္ဓနှင့် ဟိန္ဒူဝါဒလာ ကံအယူအဆကို လေ့လာရာတွင် အတ္တနှင့် အနတ္တတရားတို့ကိုလည်း ရောစပ်ကာ နားလည်သဘောပေါက်ဖို့လိုအပ်ပေသည်။ ဗုဒ္ဓ၏ ကံအပေါ်အမြင်သည် အတ္တ၊ နိစ္စနှင့် ယှဉ်သောအရာမျိုးမဟုတ်ဘဲ အနိစ္စ ဒုက္ခ အနတ္တနှင့် ပေါင်းစပ်ကာ ဖြစ်တည်သည်။ ဟိန္ဒူဝါဒလာ ကံအယူအဆကား အတ္တနှင့် ရောထွေးထားခြင်းဖြစ်သည်။ ထိုအကြောင်းကြောင့် ဗုဒ္ဓဝါဒလာ ကံ အယူအဆနှင့် ဟိန္ဒူဝါဒလာ ကံအယူ အဆတို့ လားလားမျှ မတူညီကြပါ။ (အသိအမှတ်ပြုပြီး ပြန်လည် တုန့်ပြန်ချေပချက်)

သုတေသီသည် အထက်ပါနည်းအတိုင်း မိမိရဲ့ အဆိုပြုချက် ခိုင်မာဖို့အရေး အကြောင်းပြချက်များ၊၄င်းအကြောင်းပြချက်များကို ထောက်ပံ့ပေးတဲ့ သက်သေများကို ပေးပြီး မိမိ၏ အဆိုပြုချက်များအား ခိုင်မာကြောင်း၊ လက်သင့်ခံစရာဖြစ်ကြောင်း သက်သေ၊အထောက်အထားများဖြင့် ပြောဆိုတင်ပြရမည်။

~*~~*~~*~~*~~*~~*~~*~~*~~*~~*~~*~~*~~*~

**အဆိုပြုချက်အတွက် အချက်အလက်များကိုပေါင်းစုဖော်ပြခြင်း**

အကြမ်းပတမ်းဇာတ်လမ်းများဟာ ကလေးငယ်များအပေါ် စိတ်ပိုင်းဆိုင်ရာ ထိခိုက်စေမှုကို ဖြစ်စေပါသည်။ (အဆိုပြုချက် Claim/thesis statement) အဘယ့်ကြောင့်ဆိုသော် ကလေးငယ်တွေဟာ သူတို့မြင်တွေ့ရဖန်များတဲ့ အရာများကို အတုခိုးလိုက်သင်တတ်တဲ့ (အတုမြင်အတတ်သင်တတ်တဲ့)အလေ့ အထရှိသည့်အတွက်ပင်ဖြစ်သည်။ (အကြောင်းပြချက် reason)

**မှတ်ချက်။** ။ အကြောင်းပြချက်ဟာ တစ်ခုထက်မကရှိနိုင်ပါသည်။

ထိုအကြမ်းပတမ်းဇာတ်လမ်းတွေကို မြင်ရဖန်များတဲ့အခါ တကယ့်ဖြစ်ရပ်မှန်လား၊ ဖန်တီးပုံဖော်ထားတဲ့ ဇာတ်လမ်းဇာတ်ကွက်တွေလား ဆိုတာခွဲခြားဖို့ မစွမ်းနိုင်တော့ပေ။(အကြောင်းပြချက်ကိုထောက်ပံ့ပေးတဲ့ သက်သေအထောက် အထား Evidence/Data) တီဗွီဖန်သားပေါ်က အကြမ်းပတမ်းဇာတ်လမ်းတွေကို တစ်နေ့မှာ ၃နာရီ ထက် ပိုကြည့်တဲ့ အသက်၅ နှစ် မှ ၉ နှစ် အရွယ်ကလေးငယ်တွေဟာ တီဗွီဖန်သား ပြင်ပေါ် သူတို့မကြာခဏမြင်တွေ့ရတဲ့ အရာတော်တော်များများကို တကယ်ဖြစ် ပျက်နေတဲ့ အရာတွေလို့ ထင်တတ်ကြတယ်ဆိုတာ ပြောဆိုဖို့ ၂၅% မျှ အလား အလာရှိကြောင်း Smith (1997) က ဖော်ပြထားပါသည်။

(အကြောင်းပြချက်ကို ထောက်ပံ့ပေးတဲ့ သက်သေအထောက်အထား Evidence) အကြမ်းပတမ်း ဇာတ်လမ်း၊ဇာတ်ကွက်များကို ကြည့်လေ့ရှိတဲ့ ကလေးငယ်များဟာ ပင်ကိုယ်အကြမ်းပတမ်းစရိုက်ဓါတ်ခံရှိတယ်လို့ ယူဆလို့ရနိုင်ပါသည်။ (အသိအမှတ်ပြုခြင်း acknowledgement ) သို့ရာတွင် ထိုအကြမ်းပတမ်း ဇာတ်လမ်းဇာတ်ကွက်များဟာ ပင်ကိုယ်အကြမ်းပတမ်းစရိုက်ဓါတ်ခံရှိတဲ့ ကလေးငယ်များ ကိုဆွဲဆောင် နိုင်စွမ်းရှိသလို၊ အကြမ်းပတမ်းဓါတ်ခံမရှိတဲ့ ကလေးငယ်များကိုလည်း ဆွဲဆောင်နိုင်စွမ်းရှိကြောင်းကို Jone (1989) က ဖော်ထုတ်ထားပြန်ပါသေးသည်။ (ပြန်လည်ချေပချက် -response)

**ဥပမာ ပုံစံ(၂)**

ကလေးငယ်များအတွက် ရည်ရွယ်ပြီးစီမံထားတဲ့ တီဗွီဇာတ်လမ်း၊ ဇာတ်ကွက်ဟာ သူတို့၏ ဉာဏ်ရည်ဉာဏ်သွေးတိုးတက်ဖို့ အထောက်အကူပြုပါသည်။ သို့ရာတွင် ၎င်းအရာဟာ သူတို့ရဲ့ခံစားချက်ကို တိုးတက်မှုထိခိုက်စေတဲ့ အချက်အလက်များက

offset လုပ်ထားသည့် အရာများဖြစ်သည်။

**ဥပမာ–** အကြမ်းပတမ်းဓာတ်ကွက်များ (claim/ thesis statement)

မိဘများက ထိုနမူနာပုံစံဟာ ကလေးငယ်တို့ရဲ့ တိုးတက်ဖွံ့ဖြိုးမှုကို အရေးပါတဲ့ လွှမ်းမိုးမှုတစ်ခုဖြစ်တယ်ဆိုတာကို လက်ခံကြပါသည်။ ဒါသည်ပင် မိဘများအနေနှင့် ၎င်းတို့၏ကလေးများအား သူရဲကောင်းများရဲ့ပုံပြင်ကို ပြောပြကြခြင်း အကြောင်းအရင်း တစ်ရပ်ပင်ဖြစ်သည်။ ဆိုးဝါးတဲ့ အပြုအမူများကို မြင်ရတဲ့အခါ ကလေးငယ်များကိုလည်း ထိခိုက်မယ်ဆိုတာ အမှန်ဖြစ်ပုံရပါသည်။ တစ်နေ့တာမှာ ကလေးငယ်များဟာ မရေတွက်နိုင်တဲ့ အကြမ်းဖက်မှု နမူနာပုံစံများမြင်ကြ၊ ကြားကြရပါသည်။ (reason) နေ့စဉ်နေ့တိုင်းပင်၊ သာမာန်ကလေးငယ်တစ်ယောက်ဟာ တီဗွီ (၄) နာရီနီးပါး ကြည့်တယ်၊ ၎င်းဓာတ်လမ်းတွေထဲမှာ အကြမ်းပတမ်းလှုပ်ရှားမှု ၂၀ ခန့်လောက်ကို မြင်ကြရတယ်လို့ Smith(1992) ဆိုပါတယ်။ (evidence)

ကလေးငယ်တွေဟာ ကာတွန်းအကြမ်းပတမ်းဓာတ်ကားတွေနဲ့ တကယ့်လက်တွေ့ဘဝကို ရောထွေးမသွားဘူးလို့ တာနို (Tranov, 2003) က ဖော်ညွှန်းပြသခဲ့သည်။ (ကာတွန်းအကြမ်းပတမ်းကားတွေက ကလေးငယ်တွေရဲ့ တကယ့်လက်တွေ့ဘဝအခြေအနေတွေကို ရောင်ပြန်မဟပ်စေဘူး။) (acknowledgement) သို့ရာတွင် ထိုကာတွန်း အကြမ်းပတမ်းဓာတ်ရပ်များဟာလည်း ကလေးငယ် တွေအတွက် အခြားဓာတ်လမ်းတွေမှာထက် အကြမ်းပတမ်းဖြစ်စေမှုကို ပိုပြီးဖြစ်စေကောင်းဖြစ်စေနိုင်ပါတယ်။ လူတွေနှင့် ကာတွန်းကို ခွဲခြားသိတတ်မယ် ဆိုရင်တော့ တကယ့်ဖန်တီးထားတဲ့ အကြမ်းပတမ်းဓာတ်လမ်းတွေမှာ ပါဝင်တဲ့ဓာတ်ကောင်တွေဟာ တကယ့်ဘဝကို ကိုယ်စားပြုနေတယ်လို့ သူတို့တွေ တွေးထင်ကောင်း ထင်နိုင်ပါသည်။ (response)

တီဗွီဖန်သားပြင်ပေါ်က အကြမ်းပတမ်းဓာတ်လမ်းတွေဟာ ဆယ်ကျော်သက်ရွယ် ကလေးငယ်များ၏ တိုးတက်ဖွံ့ဖြိုးမှုကို တိုက်တွန်းအားပေးနိုင်ခြေ အလားလာရှိတယ်ဆိုတာကို ကျွန်ုပ်တို့ မျက်ကွယ်ပြုထားလို့ မရနိုင်ပါ။ (claim restated/counterclaim)

## နိဂုံးချုပ်ဆွေးနွေးခြင်း (Discussion and Conclusion)

နိဂုံးချုပ်ဆွေးနွေးခြင်းကို အခန်း(၃)ခုတွင် ရေးဖွဲ့ရမှာဖြစ်သည်။ နိဂုံး အဆုံးသတ်ရေးသည့်အခါ body မှာ ရေးသားတဲ့အကြောင်း အရာများကို restate/summary ပြန်လုပ်ပေးပြီး ဆွေးနွေးတင်ပြရင်း မိမိ၏ရပ်တည်ချက်ကို အခိုင်အမာ ပြောဆိုလျက် အဆုံးသတ်ရပါမည်။

### အကျဉ်းချုံ့ပြန်လည်ကြည့်ရှုခြင်း

(၁) သုတေသန စာတမ်းခေါင်းစဉ် ရွေးချယ်ပါ။
(၂) ရွေးချယ်ထားတဲ့ သုတေသန ခေါင်းစဉ်မှ ပြဿနာရှာပါ။
(၃) ရရှိလာတဲ့ပြဿနာကို မေးခွန်းလုပ်ပါ။
(၄) မေးခွန်းကို ယာယီအဖြေထုတ်ပါ။
(၅) ယာယီအဖြေတစ်ခုကိုရွေးချယ်ပြီး အကြောင်းပြချက်များ၊ သက်သေများ ပေးပြီး ပရိတ်သတ်ကိုတင်ပြပါ။

**မှတ်ချက်။** သက်သေအခြေပြုသုတေသနလုပ်ငန်းမှာ ယာယီအဖြေကို ပြန်လည်ဆန်းစစ်ခြင်းမျိုး (Hypothesis testing)မရှိပါ။ မိမိတင်ပြတဲ့သက်သေ၊ အထောက်ထားများ၊ အကြောင်းပြချက်များခိုင်လုံတယ်ဆိုလျှင် သုတေသနစာတမ်းကို လက်ခံနိုင်ပါသည်။

## အခြားသော သုတေသနများ
## Evaluative Research

Evaluative Research သည် အကြောင်းအရာတစ်ခု၊ လုပ်ငန်း၊ စီမံကိန်း၊ သင်ကြားပို့ချမှုစသည် တစ်စုံတစ်ခုသောအရာများရဲ့ အားနည်းချက်၊အားသာချက် ၊ပျော့ကွက်ဟာကွက်များ၊ တိုးတက်မှု မတိုးတက်မှု အခြေနေများ၊ကောင်းကျိုး ဆိုးကျိုးများကို ဖော်ထုတ်တင်ပြရတဲ့ သုတေသနအမျိုးအစားဖြစ်သည်။ (Research Councils UK, 2011) ၎င်းသည် လက်တွေ့သုတေသန( applied Research) အမျိုးအစားဖြစ်ပေမယ့် တစ်စုံတစ်ခုကို လက်တွေ့စမ်းသပ်ရခြင်းမျိုးမဟုတ်ပဲ ယခင်အစောပိုင်း ပြုလုပ်ခဲ့ပြီးသော ပရိုဂရမ်များ၊စီမံကိန်းများ၊ သင်ကြားနည်းများ၊ လေ့လာမှု နည်းလမ်းများ၊ ကျန်းမာရေးစောင့်ရှောက်မှုများ၊ ကုန်သွယ်မှုများ၊ အနုပညာ၊ အုပ်ချုပ်မှုစနစ် စသည်တို့၏

အားနည်းချက်၊ အားသာချက် ပျော့ကွက် ဟာကွက် တိုးတက်လာမှု ဆုတ်ယုတ်မှု စသည်တို့ကို သုံးသပ်ကာ တင်ပြရတာကြောင့် Retrospective method(Historic method) နည်းဖြင့် ပြုလုပ်ရတဲ့ သုတေသနအမျိုးအစားလည်းဖြစ်ပါသည်။ ၎င်းသုတေသနကို Quantitative Approach ဖြစ်တဲ့ Descriptive Research များတွင် အသုံးပြုကြသလို Qualitative Approac များတွင်လည်းအသုံးပြုကြသည်။

Evaluative Research ပြုလုပ်ကြရာတွင် ဒေတာများကို ကောက်ယူခြင်းမျိုး မပြုဘဲ အစောပိုင်းကတည်းက ရှိနေပြီးဖြစ်သော Primary source and Secondary source များကို အသုံးပြုပြီး Historical Research အနေနဲ့ ပြုလုပ်ကြတာမျိုးရှိသလို လက်တွေ့ဖြစ်ပျက်နေသောအခြေနေများကို သိရှိဖို့ရန်အတွက် ကွင်းဆင်းပြီး ဒေတာကောက်သည့် နည်းစနစ်များကိုအသုံးပြုကာ (methods of data collection) ဒေကောက်ယူခံရသူများရဲ့ ပြောဆိုဆွေးနွေးတင်ပြမှု၊ ၎င်းတို့ရဲ့ ထင်မြင်ယူဆမှု၊ ခံစားချက်၊ အတွေ့အကြုံများ၊ အကြံပေးချက်များကို သုံးသပ်လေ့လာကာ Qualitative Research ပုံစံ သုတေသနပြုလုပ်ကြတာလည်း ရှိကြသလို အပိတ်မေးခွန်း (closed ended question) များဖြင့် ဒေတာကောက်ယူပြီး ပြုလုပ်ကြသည့် အရေအတွက် ဗဟိုပြုသုတေသန ( Quantitative Research) ပုံစံဖြင့်လည်းရှိကြပါသေးသည်။ သို့ပေမယ့် ယခု လမ်းညွှန် စာအုပ်တွင် Evaluative Research ကို Qualitative Approach ကနေ သုတေသန ပြုလုပ်ပြီး Historical Research ပုံစံ (ရေးသားတင်ပြပုံကို တင်ပြသွားပါမည်။ သမိုင်းဆိုင်ရာ သုတေသန (Historical Research) ဆိုသည်မှာ အစောပိုင်းဖြစ်ပျက်ခဲ့တဲ့ အကြောင်း အရာအားလုံးကို လေ့လာခြင်း ဖြစ်ပါသည်။ ယင်းတွင် ဘာသာရေး၊ နိုင်ငံရေး၊ စီးပွားရေး၊ ကျန်းမာရေးပြုစုစောင့် ရှောက်မှု၊ ကုန်သွယ်မှု၊ သင်ကြားပို့ချမှု၊ စီမံကိန်း၊ အုပ်ချုပ်ရေးရာ၊ ဥပဒေရေးရာ စသည်တို့ ပါဝင်ပါသည်။

## Evaluative Research ပြုလုပ်ရခြင်း ရည်ရွယ်ချက်

Evaluative Research ကို ပြုလုပ်ရတဲ့ ရည်ရွယ်ချက်ဟာ အမျိုးမျိုးရှိနိုင်ပေမယ့် အောက်ပါ အမျိုးအစား(၃)ခုထဲတွင် အကျုံးဝင်နိုင်ပါသည်။

၁။ မိမိတို့ရဲ့ လုပ်ငန်းစဉ်တိုးတက်ဖွံ့ဖြိုးမှု ဆုတ်ယုတ်မှုများ၊အားနည်းချက် အားသာချက် များကို ဆန်းစစ်ကာ ၎င်းလုပ်ငန်းစဉ် တိုးတက်ဖွံ့ဖြိုးအောင် ကူညီထောက်ပံ့ပေးဖို့ရန်။ (To support the development of your activity: Formative Evaluation)

၂။ လက်ရှိအခြေနေများကို သုံးသပ်ကာ အနာဂါတ်တွင် ပိုမိုကောင်းမွန်စွာ စီမံဆောင်ရွက်နိုင်စေရန်။(To ensure you manage it better next time: evaluation of your processes)

၃။ မိမိတို့ရဲ့ လုပ်ငန်း၊စီမံကိန်းများရဲ့ အကျိုးသက်ရောက်မှုအခြေနေများကို ခြုံငုံ သုံးသပ်ကာ အကဲဖြတ်လေ့လာဖို့ရန်။ (To assess the final impact of your activity :summative evaluation)

# စာတမ်းတည်ဆောက်ပုံ

| | | |
|---|---|---|
| Chapter I | : | Introduction |
| | | Background of the study |
| | | Problem statement |
| | | Research question |
| | | Objective |
| | | Scope and limitation of the study |
| | | Methodology |
| | | Organization of paper |
| Chapter II | : | Literature review |
| Chapter III | : | Findings |
| Chapter IV | : | Conclusion |
| | | Reference list |

# စာတမ်းရေးသားပုံ အဆင့်ဆင့်

အပိုင်း(၁)

၁။ ( Chapter I)သည် မိတ်ဆက်တင်ပြရသည့် အခန်းကဏ္ဍဖြစ်သည်။ ယင်းအခန်းကဏ္ဍတွင် ပထမဆုံး မိမိသုတေသန ပြုလုပ်မည့် အကြောင်းအရာများ၏ နောက်ခံကြောင်းကို ယေဘုယျအခြေမှသည် အသေးစိတ်အဆင့်ဆင့် ဆွေးနွေးတင်ပြရမည်။ သို့မဟုတ် နိုင်ငံတကာအဆင့်မှသည် ဒေသအဆင့်ထိ တစ်ဆင့်ချင်း ဆွေးနွေးတင်ပြရမည်ဖြစ်သည်။ ( Chapter I: Introduction 1.Background of the study )

၂။ မိမိရေးသားမည့် သုတေသန ပြဿနာကို ရေးသားတင်ပြရမည်။ ပြဿနာသည် တိကျရမည်၊ရှင်းလင်းရမည်၊လိုရင်းကို ထိမိအောင်ရေးသားရမည်ဖြစ်သည်။ (Problem statement) ယခု စာတမ်းအမျိုးအစားတွင် မိမိ၏ သုတေသနပြဿနာသည်

ယခင်အစောပိုင်း ဖြစ်တည်နေခဲ့သောအကြောင်းအရာများ၊ အခြေနေများကိုပြန်လှန် သုံးသပ်ရင်း ၎င်းတို့၏ အားနည်းချက် အားသာချက်များကို သုံးသပ်တင်ပြဖို့ ပင်ဖြစ်သည်။

(ခ) ကျေးလက်ဒေသရှိ ကျန်းမာရေးပြုစုစောင့်ရှောက်မှုစနစ် အခန်းကဏ္ဍ ကိုလေ့လာလိုခြင်း။

(ဂ) ကျေးလက်ဒေသရှိ မိခင်နှင့် ကလေးကျန်းမာရေးဆိုင်ရာ စောင့်ရှောက် မှုအခန်းကဏ္ဍ။

(ဃ) ကျောင်းပညာရေးဆိုင်ရာ များ၏ သင်ကြားပို့ချမှုနည်းစနစ်များဆိုင်ရာ သုံးသပ်လေ့လာမှု အခန်းကဏ္ဍ ။

(င) ဆေးရုံဆေးခန်းများတွင် Human resource management ကျင့်သုံးမှု ဆိုင်ရာအားနည်းချက် အားသာချက်များကို သုံးသပ်လေ့လာမှု။

(စ) ကျောင်းပညာရေးအရည်အသွေးများကို ဆန်းစစ်လေ့လာမှု။

(ဆ) ဝန်ဆောင်ပေးမှုဆိုင်ရာ အရည်အသွေးများကို ပြန်လည်ဆန်းစစ်ကြည့် ခြင်း စသည်များဖြစ်နိုင်သည်။

၃။ အထက်ပါ အကြောင်းအရာများကို မည်သို့သိချင်သနည်းဆိုသည်ကို ကိုယ်တိုင် မေးခွန်းထုတ်ဆိုရမည်။ မိမိမေးလိုက်သည့်မေးခွန်းသည် မိမိကိုယ်တိုင် သိချင်သော အကြောင်းအရာဖြစ်ရမည်။ (Research question)

၄။ မည်သည့်ရည်ရွယ်ချက်ဖြင့် သုတေသနပြုလုပ်မည်ဖြစ်ကြောင်းကို ရေးသား တင်ပြရမည်။ (Objective) ယခု သုတေသန၏ ရည်ရွယ်ချက်သည် အစောပိုင်းရှိနေ ခဲ့သော အကြောင်းအရာများ၊အခြေနေများကိုပြန်လှန်သုံးသပ်ရင်း ၎င်းတို့ အားနည်းချက် အားသာချက်များကို သုံးသပ်လေ့လာလိုခြင်းဖြစ်သောကြောင့် ရည်ရွယ်ချက်သည်။

ယင်းအခန်းကဏ္ဍတွင် –

(က) ကျေးလက်ဒေသရှိ ပြည်သူများ၏ လူနေမှုအဆင့်အတန်းမြင့်မားမှု ရှိ/မရှိ ကို လေ့လာလိုခြင်း။

(ခ) ကျေးလက်ဒေသရှိ ကျန်းမာရေးပြုစုစောင့်ရှောက်မှုစနစ် အခန်းကဏ္ဍ ကို လေ့လာလိုခြင်း။

(ဂ) ကျေးလက်ဒေသရှိ မိခင်နှင့် ကလေးကျန်းမာရေးဆိုင်ရာ စောင့်ရှောက်မှု အခန်းကဏ္ဍ။

(ဃ) ကျောင်းပညာရေးဆိုင်ရာ များ၏ သင်ကြားပို့ချမှုနည်းစနစ်များဆိုင်ရာ သုံးသပ်လေ့လာမှု အခန်းကဏ္ဍ။

(င) ဆေးရုံဆေးခန်းများတွင် Human resource management ကျင့်သုံးမှုဆိုင်ရာအားနည်းချက် အားသာချက်များကို သုံးသပ်လေ့လာမှု။

(စ) ကျောင်းပညာရေးအရည်အသွေးများကို ဆန်းစစ်လေ့လာမှု။

(ဆ) ဝန်ဆောင်ပေးမှုဆိုင်ရာ အရည်အသွေးများကို ပြန်လည်ဆန်းစစ်ကြည့်ခြင်းစသည် များဖြစ်နိုင်သည်။

၅။ အထက်ပါ အကြောင်းအရာများကို မည်သို့သိချင်သနည်းဆိုသည်ကို ကိုယ်တိုင်မေးခွန်းထုတ်ဆိုရမည်။ မိမိမေးလိုက်သည့် မေးခွန်းသည် မိမိကိုယ်တိုင်သိချင်သောအကြောင်းအရာဖြစ်ရမည်။ (Research question)

၆။ မည်သည့်ရည်ရွယ်ချက်ဖြင့် သုတေသနပြုလုပ်မည်ဖြစ်ကြောင်းကို ရေးသားတင်ပြရမည်။ (Objective) ယခု သုတေသန၏ ရည်ရွယ်ချက်သည် အစောပိုင်း ရှိနေခဲ့သောအကြောင်းအရာများ၊အခြေနေများကိုပြန်လှန်သုံးသပ်ရင်း၎င်းတို့ အားနည်းချက် အားသာချက်များကို သုံးသပ်လေ့လာ လိုခြင်းဖြစ်သောကြောင့်ရည်ရွယ်ချက်သည် To evaluate / To increase / To develop စသည်တို့ ဖြစ်သည်။

၇။ မိမိလေ့လာမည့် ဧရိယာ၊အချိန်ကာလ စသည်တို့ကို ပိုင်းခြားသတ်မှတ်ဖော်ပြဖို့လိုအပ်သည်။ (Scope and limitation of the study) ယင်းသို့ ပိုင်းခြားသတ်မှတ်ဖော်ပြမှသာ မိမိ၏ သုတေသနကို ကောင်းမွန်စွာ စီမံနိုင်မည်ဖြစ်သည်။ မည်သည့်နေရာတွင် ဖြစ်ပျက်ခဲ့သော အကြောင်းအရာများ၊ တည်ရှိနေခဲ့သော အခြေနေများကိုလေ့လာမှာဖြစ်ကြောင်း၊ မည်သည့်ခုနှစ်မှသည် မည်သည့်ခုနှစ် အတွင်းဖြစ်ပျက်ခဲ့သော အကြောင်းအရာများကို လေ့လာမည်ဖြစ်ကြောင်းကို ဖော်ပြရမည်။

၈။ သည် မိမိသုတေသနကို မည်သည့်ဒီဇိုင်းများ( Design) သုတေသနနည်းနာများ (Methodology) ဖြင့် လေ့လာမည်ဖြစ်ကြောင်းဖော်ပြရမည်။ ၎င်းသည် ပထမပိုင်း တွင်ဖော်ပြထားသည့် Objective များနှင့် ကိုက်ညီမှု ရှိဖို့လိုအပ်သည်။ ထို့အပြင် ထည့်သွင်းအသုံးပြုမည့် ဒေတာအမျိုးအစားများကိုလည်း ဖော်ပြပေးဖို့ လိုအပ်ပါသည်။

ဥပမာ– Case study design ဆိုလျှင် Descriptive in Qualitative approach

၉။ စာတမ်းသည် မည်မျှစနစ်တကျဖွဲ့စည်းစီမံထားကြောင်း ဖော်ပြရမည်။ အခန်းတစ်ခုစီတွင် မည်သည့်အချက်အလက်များ ဆွေးနွေးတင်ပြထားမည် ဖြစ်ကြောင်းဖော်ပြရမည်။ (Organization of paper)

## အပိုင်း(၂)

(Literature review on topic, method, theories) သည် အစောပိုင်းပြုစု ရေးသားတင်ပြထားရှိသော စာတမ်းများ စာအုပ်များကို သုံးသပ်လေ့လာခြင်းဖြစ်သည်။ မိမိရေးသားတင်ပြမည့်အကြောင်းအရာများနှင့် ပတ်သက်ပြီး မည်မျှသိရှိထားပြီး ဖြစ်ကြောင်း ဖော်ပြခြင်းလည်းဖြစ်သည်။ (Chapter II: Literature review) ယင်းအခန်း ကဏ္ဍတွင် မိမိရေးသားမည့် အကြောင်းအရာများကို သုံးသပ်ခြင်း၊ နည်းစနစ်များ၊ ဒီဇိုင်းများ၊ သီအိုရီအခန်းကဏ္ဍများကို သုံးသပ်ခြင်းများပါဝင်ရပါမည်။

ပြီးနောက် ယခု စာတမ်းတွင် မိမိလေ့လာမည့် သီအိုရီများ( theories) ပုံစံခွက် များ(Models ) များ၊အချက်အလက်များ၊ပရိုဂရမ်များ ( programmes) ကို ဖော်ပြရပါမည်။ ယင်းသို့ဖော်ပြမှသာလျှင် အကြောင်းအရာတစ်ခုကို မည့်သည့်အချက်အလက်များဖြင့် ချဉ်းကပ်တင်ပြသွား မည်ဖြစ်ကြောင်း စာဖတ်သူများ သိရှိနိုင်မည် ဖြစ်သည်။

ဥပမာ –

၁. Five Capital theories for livelihood in rural area

၂. Health care system in Rural Area

၃. Teaching strategies in Primary school

၄. School's quality in secondary school

ဥပမာ -

ကျေးလက်ဒေသရှိ လူနေမှုပုံစံသည် ယခင် ၁၉၉၀ ခုနှစ်မှသည်၂၀၀၀ ခုနှစ် အတွင်းပြောင်း လဲလာမှုရှိ မရှိ စသည်ကိုလေ့လာမည်။

အပိုင်း(၃)

(Chapter III: Findings) သည် ဒေတာများကို ဆန်းစစ်ပြီး ရလာဒ်များကို ဖော်ပြသည့်အပိုင်းဖြစ်သည်။ ယင်းသို့တင်ပြရာတွင် တစ်ခုချင်းစီ၏ အားနည်းချက် အားသာချက်တို့ကို (weakness and strength , disadvantage and advantage) များကိုထောက်ပြ ဆွေးနွေးရမည်ဖြစ်သည်။

ဥပမာ -

Capital theory for Livelihood in Rural area

1. Weakness and strength of Social capital theoryPracticed in rural area
2. Weakness and strength of human capital theory practiced in rural area
3. Weakness and strength of physical capital theory practiced in rural area
4. Weakness and strength of natural capital theory practiced in rural area
5. Weakness and strength of financial capital theory practiced in rural area

အပိုင်း (၄)

( Chapter IV) တွင် ရလာဒ်များကို ဆွေးနွေးတင်ပြကာ နိဂုံးချုပ်ပေးရမည်။
( Chapter IV) Conclusion Reference list

# နှိုင်းယှဉ်မှုပြု သုတေသန (Comparative Research)

နှိုင်းယှဉ်မှုပြု သုတေသနသည် **Social Science Research** များတွင် အကြောင်းအရာ တစ်ခုနှင့် တစ်ခုကြား သာလွန်မှု၊ ပိုမိုကောင်းမွန်မှု ရှိ/မရှိ စသည်တို့ကို စမ်းသပ် စစ်ဆေးလေ့လာများရှိပေမယ့် သမိုင်းဆိုင်ရာ သုတေသနနှင့် ဘာသာရေး ဆိုင်ရာ သုတေသနများတွင် မတူညီသောနယ်ပယ် ၂ ခုကြား ကွဲပြားခြားမှု၊ တူညီရှိကြ သည့် အရာများကို နှိုင်းယှဉ်ကာဖော်ပြရသည်။ အကြောင်းအရာတစ်ခုကို တင်ပြရာတွင် တင်ပြလိုသည့်အချက်အလက်များဖြင့် ပိုင်းခြားသတ်မှတ်ထားဖို့တော့ လိုအပ်သည်။ ယခုစာအုပ်တွင် ဘာသာရေးဆိုင်ရာ၊သမိုင်းဆိုင်ရာ နှိုင်းယှဉ်လေ့လာမှုသုတေသနကိုသာ ရေးသားတင်ပြသွားပါမည်။

# စာတမ်းတည်ဆောက်ပုံ

Chapter I: Introduction

Background of the study

Problem statement

Research question

Objective

Scope and limitation of the study

Methodology

Organization of paper

Chapter II: Body

Chapter III: Conclusion

Reference list

## ဘာသာရေးဆိုင်ရာ သုတေသန (Religious Research)

ဘာသာရေး ၂ခုကြား တူညီမှု၊ ကွဲပြားခြားနားမှု စသည်ဖြင့်လေ့လာခြင်း (comparative study of religious study) အခန်းကဏ္ဍတွင်-တူညီသော ဘာသာရေးအတွင်း တွင်ဖြစ်စေ၊မတူညီသည့် ဘာသာရေးတို့ကြားဖြစ်စေ ခြားနားမှု၊ တူညီမှု၊ တိုးတက်ဖွံ့ဖြိုးမှု၊ အားနည်းချက်၊အားသာချက် စသည်တို့ကို နှိုင်းယှဉ်လေ့လာကြည့်ခြင်းများ ပါဝင်ပါသည်။

Type of Comparative Research

- Historical Research
- Philosophical Research
- Archaelogical Research

Historical Research ဆိုသည်မှာ -

အတိတ်ကာလတွင် ဖြစ်ပျက်ခဲ့ပြီးသော အဖြစ်အပျက်များ၊ အခြေနေများကို လေ့လာရသည့် သုတေသနဖြစ်သည်။

ဥပမာ -

ဘုန်းတော်ကြီးသင် ပညာရေးကို ထိုင်း-မြန်မာ (၂)နှစ်နိုင်ငံကြား လေ့လာကြည့်ခြင်း။

Philosophical Research ဆိုသည်မှာ-

အကြောင်းအရာတစ်ခု နှင့်ပတ်သက်ပြီး စဉ်းစားတွေးခေါ်ယူဆမှုကို အခြေခံကာ ဆန်းစစ်ဝေဘန်ရသည့် သုတေသနဖြစ်သည်။

ဥပမာ -

ကံအယူအဆကို ဗုဒ္ဓဘာသာနှင့် ဟိန္ဒူဘာသာတို့ကြားနှိုင်းယှဉ်လေ့လာကြည့်ခြင်း။

Archaelogical Research ဆိုသည်မှာ–

ဗိသုကာလက်ရာများဆိုင်ရာ အဆောက်အဦများ နှင့်ပတ်သက်ပြီး လေ့လာရသည့် သုတေသနပညာရပ်ဖြစ်သည်။ ၄င်းတွင် ဗိသုကာ လက်ရာများအပါအဝင် ဗုဒ္ဓဆင်းတုတော်ဆိုင်ရာ သမိုင်းများကို နှိုင်းယှဉ်လေ့လာခြင်းဖြစ်သည့် Iconlogical Research လည်းပါဝင်သည်။

ဥပမာ –

ဗုဒ္ဓမုဒြာ ပုံသဏ္ဍာန်ကို ဗမာ၊ အိန္ဒိယနှင့် ရခိုင်ဒေသတို့ကြား နှိုင်းယှဉ်လေ့လာကြည့်ခြင်း။

## နမူနာသုတေသန ခေါင်းစဉ်များ

(က) မဟာယန ဗုဒ္ဓဘာသာနှင့် ထေရဝါဒဗုဒ္ဓဘာသာ တို့၏ ဗောဓိသတ္တအယူအဆကို လေ့လာကြည့်ခြင်း။ (Philosophical Research)

(ခ) ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာတို့၏ ကမ္မဝါဒအယူအဆကို ဆန်းစစ်လေ့လာကြည့်ခြင်း။ (Philosophical Research)

(ဂ) အနောက်တိုင်း ဒဿနိကဗေဒနှင့် ဗုဒ္ဓဝါဒ ဒဿနိက အယူအဆကို နှိုင်းယှဉ်လေ့လာ ကြည့်ခြင်း။

(ဃ) သေပြီးနောက်ဘဝအယူအဆများကို ဘာသာတရားများကြား နှိုင်းယှဉ်လေ့လာကြည့်ခြင်း။

(င) ငြိမ်းချမ်းမှု အယူအဆကို ဘာသာတရားများကြား နှိုင်းယှဉ်လေ့လာကြည့်ခြင်း။

(စ) ထိုင်း ဗုဒ္ဓမုဒြာဟန်ပုံစံ ကိုနှိုင်းယှဉ်လေ့လာကြည့်ခြင်း။ (Archaeological Research)

(ဆ) ဘုန်းတော်ကြီးသင်ပညာရေးအကြောင်းကို ထိုင်းနှင့် မြန်မာနိုင်ငံကြား နှိုင်းယှဉ်လေ့လာကြည့်ခြင်း။

(ဇ) ထေရဝါဒနှင့်မဟာယနကြား နိဗ္ဗာန်အယူအဆကိုနှိုင်းယှဉ်လေ့လာကြည့်ခြင်း။

(ဈ) မိန်းမသားတို့၏အခန်းကဏ္ဍကို ဗုဒ္ဓဘာသာနှင့် ဟိန္ဒူဘာသာတို့ကြား နှိုင်းယှဉ်လေ့လာခြင်းစသည့် ခေါင်းစဉ်များ ပါဝင်ပါသည်။

# အဆင့်ဆင့်ရေးသားနည်း

## Chapter I : Introduction:

အခန်း(၁)တွင်

၁။ မိမိရေးသားမည့် အကြောင်းအရာများ၏ နောက်ခံအကြောင်းကို ယေဘုယျ အခြေအနေမှသည် အသေးစိတ်ကျသည့် အခြေနေတစ်ရပ်သို့ တဖြည်းဖြည်း ဆွေးနွေးရမည်။ (Background and significance of problem)

**ဥပမာ** မဟာယန ဗုဒ္ဓဘာသာနှင့် ထေရဝါဒဗုဒ္ဓဘာသာတို့၏ ဗောဓိသတ္တ အယူအဆ ကိုလေ့လာကြည့်ခြင်း။ ခေါင်းစဉ်ဖြင့် သုတေသန ပြုမည်ဆိုပါစို့။ မိမိ၏ ဆွေးနွေးရေးသားမည့် အကြောင်းအရာသည် ဗောဓိသတ္တအယူအဆ ပင်ဖြစ်သည်။ ထို့ကြောင့် ဗောဓိသတ္တဆိုသည်ကို ယေဘုယျအားဖြင့် ရှင်းလင်း တင်ပြဖို့ လိုအပ်သည်။ ထေရဝါဒတွင်ဖော်ပြထားသည့် ဗောဓိသတ္တာဝ အယူအဆနှင့် မဟာယနတွင်ဖော်ပြထားသော ဗောဓိသတ္တာဝ အယူအဆကို ယေဘုယျ နားလည်သဘောပေါက်အောင် တင်ပြရမည်။

၂။ စူးစမ်းလေ့လာလိုသော (တစ်နည်း) သိချင်သော ပုစ္ဆာကို မေးခွန်းထုတ်ရမည်။ (Research question )

ဥပမာ –

(က) ဗောဓိသတ္တအယူအဆကို ထေရဝါဒနှင့် မဟာယနစာပေတွင် မည်သို့ဖွင့်ဆို ထားသနည်း။

(ခ) ဗောဓိသတ္တအယူအဆကို ထေရဝါဒ ဗုဒ္ဓဘာသာ၏ ပိဋကတ်တော် တွင် မည်သို့တင်ပြထားသနည်း။

(ဂ) ဗောဓိသတ္တအယူအဆကို မဟာယနဗုဒ္ဓဘာသာ၏ ပိဋကတ်တော်တွင် မည်သို့တင်ပြထားသနည်း။

(ဃ) ဗောဓိသတ္တအယူအဆနှင့်ပတ်သက်ပြီး မဟာယာန နှင့်ထေရဝါဒတို့ ကြားတူညီမှု၊ ကွဲပြားမှုကားမည်သည့် အရာများနည်း။

၃။ မိမိလေ့လာလိုသည့် ရည်ရွယ်ချက် အကြောင်းအရာများကိုလည်းဖော်ပြရမည်။ (Objective)

၎င်း ရည်ရွယ်ချက်သည်လည်း မိမိ၏ သုတေသနမေးခွန်းနှင့် ကိုက်ညီမှုရှိရမည်။

ဥပမာ –

(က) ဗောဓိသတ္တ အယူအဆကို ထေရဝါဒနှင့် မဟာယနစာပေတွင် ဖွင့်ဆိုမှုကို လေ့လာရန်။

(ခ) ဗောဓိသတ္တအယူအဆကို ထေရဝါဒ ပိဋကတ်တော်တွင် မည်သို့ တင်ပြထားသည်ကို လေ့လာရန်။

(ဂ) ဗောဓိသတ္တအယူအဆကို မဟာယနဗုဒ္ဓဘာသာ၏ ပိဋကတ်တော်တွင် မည်သို့တင်ပြထားသည်ကိုလေ့လာရန်။

(ဃ) ဗောဓိသတ္တအယူအဆနှင့်ပတ်သက်ပြီး မဟာယာနနှင့် ထေရဝါဒတို့ကြား တူညီမှု၊ကွဲပြားမှုများကိုလေ့လာရန်။

(၄) မိမိ၏ သုတေသနစာတမ်းတွင် မည်သည့်အကြောင်းအရာများအား လေ့လာမည်ဖြစ်ကြောင်း၊မည်သည့် ကျမ်းစာများဖြင့်လေ့လာမည်ဖြစ်ကြောင်း ကန့်သတ်ပိုင်းခြားဖော်ပြရမည်။ (Scope and limitation of the study)

(၅) မိမိလေ့လာမည့်သုတေသနစာတမ်းကို မည်သည့် သုတေသန အမျိုးအစား၊ ဒေတာအမျိုးအစားကို အသုံးပြုမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြရမည်။ (Methodology)

**ဥပမာ** ယခုစာတမ်းသည် Comparative Research in Qualititative Approach ဖြစ်သည်။ ယခုစာတမ်းတွင် ထေရဝါဒနှင့် မဟာယနဗုဒ္ဓဘာသာတို့တွင်ရှိသော ပိဋကတ်ကျမ်းစာများ( primary and secondary source)ကို အသုံးပြုမည်ဖြစ်သည်။

(၆) မိမိ၏စာတမ်းကို အခန်းမည်မျှဖြင့် ဖွဲ့စည်းရေးသားထားကြောင်း တင်ပြရမည်။ (Organization of paper )

ထို့အပြင် အခန်းတစ်ခုစီတွင် မည်သည့်အကြောင်းအရာများ ဆွေးနွေးတင်ပြထားကြောင်းဖော်ပြရမည်။

## Chapter II : body

အခန်း(၂)တွင်

မိမိဆွေးနွေးရမည့် အကြောင်းအရာများကို အကိုးအကားများဖြင့် တစ်ခုချင်းစီ ရှင်းလင်းတင်ပြရမည်။ ခေါင်းစဉ်ငယ်များ သတ်မှတ်ခြင်း၊ အခန်းဖွဲ့ခြင်းများသည် သုတေသီအပေါ်မူတည်သည်။ ထို့ကြောင့် မိမိဆွေးနွေးတင်ပြမည့် အကြောင်းအရာများကို အချက်အလက် မည်မျှဖြင့် ဆွေးနွေးမည်။ မည်သို့တင်ပြမည်ဖြစ်ကြောင်းကို သတ်မှတ်ထားဖို့လိုအပ်သည်။ သို့မှသာ အချက်ကျကျ နှိုင်းယှဉ်ဖော်ပြရာတွင် အသေးစိတ်ဆွေးနွေးနိုင်မည်ဖြစ်သည်။

**နှိုင်းယှဉ်ဖော်ပြရာတွင် သုံးစွဲနိုင်သည့် ပုံစံ (၂)မျိုး**

ပထမနည်းသည် Block system (or) Whole to whole system ဖြစ်သည်။

ဒုတိယနည်းသည် point by point system ဖြစ်သည်။

### Block system (or) Whole to Whole system စနစ်

မိမိနှိုင်းယှဉ်မည့် အချက်အလက်များအားလုံးကို နှိုင်းယှဉ်မည့်အုပ်စုတစ်ခုချင်းစီအလိုက် စုပြုံဆွေးနွေးခြင်းဖြစ်သည်။

**ဥပမာ–**

ဗောဓိသတ္တအကြောင်းကို ဆွေးနွေးတင်ပြရာတွင် တူညီသည့် အယူအဆနှင့် မတူကွဲပြားသည့် အယူအဆများ (၅)ချက်လောက်ဖြင့် ဖော်ပြလိုသည်ဆိုပါစို့။

တူညီမှု၊ ကွဲပြားခြားနားမှုရှိသည့်အချက်အလက်များ

| | | |
|---|---|---|
| နံပါတ်(၁) | ။ | တူညီမှု/မတူညီမှု |
| နံပါတ်(၂) | ။ | |
| နံပါတ်(၃) | ။ | ထေရဝါဒ ဗုဒ္ဓဘာသာ |

နံပါတ်(၄) ။
နံပါတ်(၅)
နံပါတ်(၁) ။ တူညီမှု/မတူညီမှု
နံပါတ်(၂) ။
နံပါတ်(၃) ။ မဟာယန ဗုဒ္ဓဘာသာ
နံပါတ်(၄) ။
နံပါတ်(၅) ။

## Point by point system ဖြင့် တင်ပြခြင်း

Point by point system ကို မြန်မာမှုပြုရလျှင် တစ်ခုချင်းစီ၊ တစ်ချက်ချင်းစီ ဆွေးနွေးတင်ပြသည့် နည်းစနစ်လို့ အဓိပ္ပာယ်ရသည်။

နံပါတ် (၁) ထေရဝါဒ ပိဋကတ်တော် နှင့် မဟာယန ပိဋကတ်တော်လာ ဗောဓိသတ္တအယူအဆ တူညီမှု၊ကွဲပြားခြားနားမှု
နံပါတ် (၂) ထေရဝါဒ ပိဋကတ်တော် နှင့် မဟာယန ပိဋကတ်တော်လာ ဗောဓိသတ္တအယူအဆ တူညီမှု၊ ကွဲပြားခြားနားမှု
နံပါတ် (၃) ထေရဝါဒ ပိဋကတ်တော် နှင့် မဟာယန ပိဋကတ်တော်လာ ဗောဓိသတ္တအယူအဆ တူညီမှု၊ကွဲပြားခြားနားမှု
နံပါတ် (၄) ထေရဝါဒ ပိဋကတ်တော် နှင့် မဟာယန ပိဋကတ်တော်လာ ဗောဓိသတ္တအယူအဆ တူညီမှု၊ ကွဲပြားခြားနားမှု
နံပါတ် (၅) ထေရဝါဒ ပိဋကတ်တော် နှင့် မဟာယန ပိဋကတ်တော်လာ ဗောဓိသတ္တအယူအဆ တူညီမှု၊ ကွဲပြားခြားနားမှု

## နိဂုံးပိုင်း (Conclusion)

နိဂုံးအဆုံးသတ်ကိုရေးသားတင်ပြရာတွင် –

Similiarity and Difference
Advantage and disadvantage
Weakness and strength တို့ကို နှိုင်းယှဉ်ဖော်ပြရသည်။

## သမိုင်းဆိုင်ရာ သုတေသန (Historical Research )

Historical Research သည် အတိတ်ကာလတွင် ဖြစ်ပျက်ခဲ့ကြသည့် အကြောင်းအရာများ၊ အဖြစ်အပျက်များအားလုံးကို စနစ်တကျ စူးစမ်းရှာဖွေကာ တင်ပြရသည့် သုတေသန လုပ်ငန်းဖြစ်သည်။ အတိတ်ကာလဆိုရာတွင် ဘာသာရေး ဆိုင်ရာ၊ လူမှုရေးဆိုင်ရာ၊ စီးပွားရေးဆိုင်ရာ၊ ကုန်သွယ်ရေးဆိုင်ရာ၊ ကျန်းမာရေး စောင့်ရှောက်မှု ဆိုင်ရာများစသည်ဖြင့် အခန်းကဏ္ဍများစွာရှိသည်။

ယင်းသမိုင်းဆိုင်ရာများကို လေ့လာကြရာတွင် ရည်ရွယ်ချက်အလိုက် အောက်ပါအတိုင်း အမျိုးအစားများကွဲပြားနိုင်ပါသေးသည်။

**Type of Historical Research**

Historical Research
Argumentative Research
Archaelogical Research
Inconlogical Research

## လေ့လာနိုင်သည့် အခန်းကဏ္ဍနမူနာများ

(က) အမရပူရခေတ် ကုန်သွယ်ရေးများအကြောင်းကိုလေ့လာကြည့်ခြင်း
(ခ) ပုဂံခေတ် ကျွန်စနစ်အကြောင်းကို လေ့လာကြည့်ခြင်း။
(ဂ) ပုဂံခေတ် ထေရဝါဗုဒ္ဓဘာသာအကြောင်းကိုလေ့လာခြင်း။
(ဃ) အနော်ရထာဘုရင်လက်ထက် ထေရဝါဒဗုဒ္ဓဘာသာ တိုးတက်ခဲ့ပုံအကြောင်း လေ့လာခြင်း။
(င) ပုဂံခေတ် ထေရဝါဒဗုဒ္ဓဘာသာရဟန်းတော်များအကြောင်းကို လေ့လာသုံးသပ်ခြင်း။

(စ) ဗြိတိသျှလက်ထက် ဘုန်းတော်ကြီးသင်ပညာရေးအခန်းကဏ္ဍများကို သုံးသပ်လေ့လာခြင်း။

(ဆ) ၁၉၉၀ မှသည် ၂၀၀၅ ခုနှစ်ကာလအတွင်း ကျေးလက်ကျန်းမာရေး စောင့်ရှောက်မှုဆိုင်ရာများကိုလေ့လာကြည့်ခြင်း။

(ဈ) အမရပူရခေတ် သီလရှင်များ သမိုင်းကို ဆန်းစစ်လေ့လာကြည့်ခြင်း။

(ဆ) ဟံသာဝတီခေတ်စတူပါ ပုံသဏ္ဍာန်တို့အကြောင်းကို ဆန်းစစ်လေ့လာကြည့်ခြင်း။

## ဝေဘန်ဆန်းစစ်ခြင်းဆိုင်ရာ သုတေသန
## (Analytical Research or Philosophical Research )

Philosophical Research ဆိုသည်မှာ ဒဿနိကရှုထောင့်မှ ဆွေးနွေးတင်ပြရသည့် သုတေသနအမျိုးအစားဖြစ်သည်။ ၎င်းတွင် နက်နဲသော အတွေးအခေါ်ပိုင်းမှ ဆွေးနွေးတင်ပြရသည့် ဝေါဟာရများ၊ အယူအဆများကိုဆန်းစစ်လေ့လာခြင်း၊ နှိုင်းယှဉ်လေ့လာခြင်း၊ ခိုင်မာသည့် အယူအဆများဖြင့် ဆွေးနွေးတင်ပြခြင်းများလည်းပါဝင်ပေသည်။




## နမူနာ ခေါင်းစဉ်များ

၁။ ထေရဝါဒဗုဒ္ဓဘာသာလာ အတ္တဆိုသည့် ဝေါဟာရကို ဆန်းစစ်လေ့လာကြည့်ခြင်း။

၂။ သီလမဂ္ဂင်ကို ဆန်းစစ်လေ့လာကြည့်ခြင်း။

၃။ သမ္မာဒိဋ္ဌိ အယူအဆကို ဆန်းစစ်လေ့လာကြည့်ခြင်း။

## ဗိသုကာလက်ရာဆိုင်ရာ သုတေသန (Archaelogical Research)

Archaeological Research ဆိုသည်မှာ ဗိသုကာလက်ရာများကို အသေးစိတ် လေ့လာရသည့် သုတေသန ပညာရပ်ဖြစ်သည်။ ဗိသုကာလက်ရာများဆိုရာဝယ် ဗိသုကာလက်ရာအဆောက်အဦများအပြင် ဗုဒ္ဓရုပ်ပွားတော်ဆိုင်ရာများနှင့် ပတ်သက်ပြီး လေ့လာရသည့် Inconlogical Research သုတေသနပညာရပ်များလည်းပါဝင်သည်။ ဗိသုကာလက်ရာ ဆိုင်ရာများ နှင့် သုတေသနပြုရာတွင် အောက်ပါအတိုင်း အမျိုးမျိုး ရှိကြသည်။

**Type of Archaelogical Research (Inconlogical Research)**

- Historical Research
- Argumentative Research
- Comparative Research

### လေ့လာလို့ရနိုင်သည့် ခေါင်းစဉ်နမူနာများ –

(က) ထိုင်း–မြန်မာ အိန္ဒိယတို့ကြား ဗုဒ္ဓမုဒြာဆိုင်ရာ နှိုင်းယှဉ်လေ့လာကြည့်ခြင်း။

(ခ) ဓမ္မစကြာ မုဒြာနှင့်ပတ်သက်ပြီး သုံးသပ်လေ့လာကြည့်ခြင်း။

(ဂ) စတူပါပုံသဏ္ဍာန်ကိုလေ့လာကြည့်ခြင်း။

## Biographical Research

Biographical Research သည် အထင်ကရ လူသိများသည့် ပုဂ္ဂိုလ်များ၊ လေးစားရသည့်ပုဂ္ဂိုလ်များ၏ ဘဝဇာတ်ကြောင်းကို သုတေသန ပြုလုပ်ခြင်းဖြစ်သည်။ ယင်းတွင် ဘာသာရေးဆိုင်ရာစာပေထဲမှ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကိုဖြစ်စေ၊ ဘာသာရေး ဆိုင်ရာ အခန်းကဏ္ဍမှာ ထူးခြားတဲ့ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်အကြောင်းကို ဖြစ်စေ ရေးသားတင်ပြခြင်းမျိုးလည်းဖြစ်သည်။ သို့ရာတွင် လေးစားကြည်ညိုမှု ကြောင့်ဖြစ်စေ၊ စိတ်ထဲမကျေမနပ်သောကြောင့်ဖြစ်စေ၊ ချစ်မြတ်နိုးသောကြောင့်ဖြစ်စေ၊ မိမိ၏ ထင်မြင် ချက်များ ရောစွက်ကာရေးသားတင်ပြမှုများ မပါဝင်ရပေ။

**နမူနာခေါင်းစဉ်များ**

(က) ဦးရွှေအောင်၏ ဘဝနှင့်သူ၏ ဓမ္မအပေါ်ထားရှိသော အမြင်သဘောတရားများအကြောင်း။

(ခ) ဝိသာခါကျောင်းအမကြီးရဲ့ ဘဝအကြောင်းနှင့် သူရဲ့ ဓမ္မအကြောင်းကို လေ့လာသုံးသပ်ကြည့်ခြင်း။

## Method and Materials

## ဒေတာများ၊ သတင်းအချက်အလက်များကို ကောက်ယူစုဆောင်းခြင်း (Data Collection)

**Primary and Secondary Source အကြောင်း**

သုတေသနစာတမ်းရေးတဲ့အခါ သက်ဆိုင်ရာအချက်အလက် sourceတွေကို နေရာပေါင်းစုံက လိုက်ရှာကြရပါသည်။ Source မှာ (၂) မျိုးရှိပါသည်။

(၁) Primary Source နဲ့ Secondary Source ဖြစ်သည်။ Source တွေရနိုင်သည့် နေရာတွေဟာလည်း နေရာပေါင်းစုံ ကဏ္ဍစုံရှိပြန်ပါသည်။ တချို့ Source ကတော့ printed book တွေ မဂ္ဂဇင်း ၊ စာစောင်၊ သတင်းစာ၊ ဂျာနယ်၊ ဆောင်းပါး စသည့် အပြင် အင်တာနက်ဝက်ဆိုက်စာမျက်နှာများမှလည်း ဖြစ်နေတတ်ပါသည်။

(၂) သုတေသန စာတမ်းရေးတဲ့အခါတော့ အထက်ပါ Source(၂) ခုက မဖြစ်မနေ ပါဝင်ကြတာချည်းဖြစ်သည်။ ယခု Source(၂) ခု၏ ကွာဟချက်ကိုလည်း သိထားသင့်ပါသည်။

## ၁။ Primary source or data ဆိုတာ

တစ်စုံတစ်ယောက်က အစောပိုင်းက ပြုလုပ်ပြီးသောအရာမဟုတ်တဲ့ မူရင်းသတင်းအချက်အလက်များကိုဆိုလိုပါတယ်။ ၎င်းဟာတစ်စုံတစ်ယောက်ရဲ့ သုတေသနစာတမ်းကိုဘာသာပြန်ခြင်း စီစစ်ဝေဖန်ပြခြင်း၊ အတိုချုံ့ရေးသားခြင်း စသည်တို့မှဆင်းသက်လာတာမဟုတ်ပါဘူး။ ဥပမာပြောရင် ကိုယ်တိုင်ရေးဒိုင်ယာရီ ၊ ကိုယ်တိုင်ပြုစုတဲ့ သမိုင်းမှတ်တမ်း ၊ ခရီးသွားမှတ်တမ်း၊ ကိုယ်တိုင်တွေ့ကြုံသည့် အတွေ့အကြုံဖြစ်ရပ်များနှင့် ပထမဆုံး စုဆောင်းပြုစုသည့် သတင်းအချက်အလက်များကို Primary Source ဖြစ်ပါတယ်။ Primary Source ဆိုတာကိုယ်တိုင် စူးစမ်းရှာဖွေခြင်း၊ မေးမြန်းခြင်း၊ ကွင်းဆင်း လေ့လာခြင်းတို့နှင့် အချက်အလက်တွေကို စုဆောင်းရတာမျိုးပါ။

### Primary sourceများကိုကောက်ယူတဲ့အခါသိထားရမည့်အချက်အလက်များ

#### (၁) ရည်ရွယ်ချက် ( Purpose )

(က) ဘယ်သူဟာ စာရေးသူသည် သူ/သူမဟာ လူမှုအသိုင်းအဝိုင်းရဲ့ ဘယ်နေရာကလဲ။

(ခ) ဘာကြောင့်များ ဒီစာတမ်းအချက်အလက်တွေကို ပြင်ဆင်ခဲ့သလဲ၊ ဒီစာတမ်းပြင်ဆင်ဖို့အတွက် အဖြစ်အပျက်တွေ၊ အကြောင်းအရာတွေက ဘာလဲ။

(ဂ) ဘာအကြောင်းကြောင့် စာရေးသူရေးသားခဲ့တယ်လို့ ထင်မိသလဲ။

(ဃ) ဒီစာတမ်း၊ ဆောင်းပါးဟာ ဘယ်လိုသက်သေ အထောက်အထားများကို ပြောပြနိုင်သလဲ ။

(င) သူ့၏ရပ်တည်ချက်၊ ထင်မြင်ချက် Thesis Statement က ဘာလဲ။

#### (၂) အဆိုပြုချက် (Argument )

(က) စာတမ်း၊ ဆောင်းပါးက ဘာတွေကို ပြောဆိုဖို့ကြိုးစားနေသလဲ။ အကြောင်း အရာတစ်ခုကို ဘယ်လိုဖန်တီးနေသလား?။ သူ့၏ပန်းတိုင်ကို ရောက်ဖို့ ဘယ်နည်းဗျူဟာတွေကို အသုံးပြုနေသလဲ။ ဒီနည်းဗျူဟာ တွေကို ဘယ်လိုလုပ်ဆောင်သလဲ။

(ခ) စာတမ်း၊ ဆောင်းပါး၏ ရည်ရွယ်ထားသည့် ပရိတ်သတ်က ဘယ်သူတွေလဲ။

(ဂ) စာရေးသူဟာ ယုံကြည်အားကိုးထိုက်တယ်လို့ ထင်သလား?၊ ဘာကြောင့်လဲ။

## (၃) ကြိုတင်ခန့်မှန်းခြင်း၊ ကောက်ချက်ချခြင်း (Presuppositions)

(က) ဒီစာတမ်းထဲမှာပါတဲ့အတွေးအခေါ်အယူအဆ၊ တန်ဖိုးထားမှုတွေနဲ့ ယခုခေတ်၏တန်ဖိုး၊ အတွေးခေါ်အယူအဆတွေဟာ ဘယ်လိုကွာခြား နေသလဲ။

## (၄) ဆက်နွယ်မှု (Relate)

(က) စာတမ်းတစ်ခုနှင့် တစ်ခုဖတ်သည့်အခါ စာတမ်းတစ်ခု၏ တစ်လျှောက် လုံး ဘယ်လိုပုံသဏ္ဍာန်နဲ့ အတွေးအခေါ်ယူဆချက်ကို ထပ်တလဲလဲ ပြောဆို ထားသလဲ။

(ခ) ဘာတွေက တစ်ခု နှင့် တစ်ခု အဓိက ထူးခြားနေတာတွေကို တွေ့ရသလဲ။

(ဂ) ဘယ်အရာကပိုပြီး ယုံကြည်ထိုက်၊ အားကိုးမှီခိုစရာအရာများ တွေ့ပါ သလဲ။

## ၂။ **Secondary source or data ဆိုသည်မှာ**

Secondary source ဆိုတာ သုတေသနစာတမ်းရေးသူ ကိုယ်တိုင်ပြုစု စာရင်းကောက်ထားတာ အင်တာဗျူးလုပ်ထားတွေမဟုတ်ပဲ တစ်ပါးသူပြုစု စာရင်းကောက်ရေးသားထားတဲ့ သတင်းအချက်အလက်များအား တဆင့်ခံစုဆောင်းခြင်းကို ခေါ်ပါသည်။

### **Secondary Data ကောက်ယူတဲ့အခါ အရေးကြီးတဲ့အချက်(၃)ချက်**

(၁) စာရေးသူများက ဘာတွေကို ပြောဆိုထားသလဲ။ စာရေးသူ၏ အဓိက ယူဆချက် (သို့မဟုတ်) ရပ်တည်ချက်ဟာ ဘာလဲ။ ပြီးတော့ သူတို့၏ အဆိုပြုချက်ဟာ ဘာတွေကို ထောက်ပံ့ထားသလဲ။ တစ်စုံတစ်ခုဟာ ဘာကြောင့် ဘယ်လိုမျိုးဖြစ် သွားခဲ့တာလဲ ဆိုတာကို သမိုင်းဆိုင်ရာ စာတမ်းတစ်စောင်ရဲ့ သော့ချက်ကနေ ရှင်းပြပေးတတ်ပါတယ်။ ဆိုလိုတာက စာရေးသူ(၁) ဘာတွေဖြစ်ခဲ့တယ်။ ဘယ်သူတွေ၊ ဘယ်နေရာမှာဘယ်အချိန် ၊ ဘယ်အရာတွေဖြစ်ပျက်ခဲ့တယ် ဆိုတာတွေကို ပြောဆိုရတာဖြစ်ပြီး (၂) ဘာကြောင့် ဘယ်လိုပုံစံ ဖြစ်ပျက်ခဲ့တာတွေကို ရှင်းလင်းပြရပါသည်။

(၂) စာရေးသူဟာ ဘာကြောင့်ခုလိုပြောဆိုတာလဲ။ သမိုင်းသုတေသီများဟာ အခြားကျွမ်းကျင်ပညာရှင်များနဲ့ ကြီးကျယ်ပြီး၊ တစ်ခါတစ်ရံတော့ သိပ်ပြီးမှုန်ဝါးတဲ့စကားပြောဆိုမှုတွေမှာ အမြဲလိုလိုပါဝင်တတ်ပါသည်။ စာရေးသူဟာ ပြိုင်ဘက်နဲ့ငြင်းခုံနေတာလား၊ ချေပဖို့ ပြောဆိုနေတာမျိုးလား။ ဘာတွေဖြစ်နိုင်မလဲ၊ ဘယ်လိုလက်ခံနိုင်တဲ့ အတွေးအခေါ် အယူအဆမျိုးကို စာရေးသူကပြောဆိုနေတာလဲ။ ဘယ်လောက်ထိ လေးလေးနက်နက်တင်ပြနေတာလဲဆိုတာကို ကြည့်ရမည်။

(၃) စာရေးသူအဆိုပြုချက်ရဲ့ အားနည်းချက်၊ ဟာကွက်များဟာ ဘယ်နေရာမှာ ရှိသလဲ၊ သိပ်တော်တဲ့ သမိုင်းဆရာတွေဟာ သူတို့ရဲ့ နိဂုံး

(သို့မဟုတ်) ဘာသာပြန်ဆိုမှုလို့ ပြောဆိုဖို့ရန် အကြောင်းအရာတွေက ပြုလုပ်ဖန်တီးတတ်ကြပါသည်။ သို့ပေမယ့် ဒီလိုပြုလုပ်မှုဟာ လုံခြုံလှတယ်ဆိုတာမရှိပါဘူး။ (ဟာကွက်ကရှိစမြဲ) အထူးသဖြင့်တော့ ပြိုင်ဆိုင်စိန်ခေါ်မှုတွေ၊ အကုန်လုံးကို သိမ်းကျုံးပြောဆိုမှုတွေမှာ ဖြစ်တတ်ပါတယ်။ ဘယ်အချက်အလက်တွေမှာ စာရေးသူ အားနည်းချက်၊ ဟာကွက်များ ဖြစ်နေသလဲ၊ ဘယ်နေရာတွေမှာ သူတို့၏ သက်သေပြမှုတွေ အားနည်းပျော့ညံ့ နေသလဲ၊ ဘယ်အချက် တွေမှာ စာရေးသူရဲ့ကြောင်းကျိုးဆီလျော်မှု အားနည်းနေသလဲ၊ သံသယဖြစ်စရာ ကောင်းနေသလဲ စတာတွေကို လေ့လာရပါမည်။

## Primary and secondary ကို ဘယ်လိုခွဲခြားသိနိုင်မလဲ။ (how to decide)

သုတေသနစာတမ်းတစ်ခုကို ကောက်ဖတ်ကြည့်ပါ။ အဲဒီစာတမ်းထဲမှာပါတဲ့ အချက်အလက်များဟာ စာရေးသူကိုယ်တိုင်တွေ့ကြုံရတဲ့ အတွေ့အကြုံလား ကိုယ်ပိုင်စိတ်ကူးအတွေးအခေါ်လား ယင်းသို့မဟုတ် သူများရဲ့ သတင်းအချက်အလက်ကို ကိုးကားရေးပြတာလားဆိုတာကို သေချာကြည့်ပါ။ သတင်းစာ ဆောင်းပါးတစ်ခုကိုပဲ ကြည့်လိုက်ပါ။ သူတို့ကိုယ်ပိုင်အတွေးအခေါ် အယူအဆတွေ၊ ကိုယ်တွေ့ဖြစ်ရပ်၊ ကိုယ်တွေ့ကွင်းဆင်းသုတေသနတွေ (သို့မဟုတ်)သူတစ်ပါးရဲ့ စာအုပ်ကို အကျဉ်းချုံးရေးသားထားတာတွေ ဝေဖန်ထောက်ပြတာတွေဆိုရင်တော့ ဆောင်းပါးရဲ့ နောက်ဆုံးမှာ စာရေးသူဖတ်ရှုထားတဲ့ စာအုပ်ဆောင်းပါးတွေကို ဖော်ပြထားမှာပါ။

## သက်သေအခြေပြုသုတေသနပြုရာတွင် ဆောင်ရန်၊ ရှောင်ရန် ကာလကို သုံးစွဲခြင်း (Use of Tense)

**စည်းကမ်းချက် (၁)**

နိဒါန်းပျိုးခန်း (Introduction) မှာ present simple သို့မဟုတ် present perfect tense ကို ယေဘုယျအားဖြင့်တော့ သုံးစွဲကြပါတယ်။

**ဥပမာ –**

In the literature there are several examples of new strategies to perform these tests, wihch all entail setting parameters (Peters 1997,Grace 2004, Gatto 2005).

Many different approaches have been proposed to solve this issue.

**စည်းကမ်းချက် (၂)**

သုတေသီတစ်ယောက် အကြောင်းအရာတစ်ခုနှင့် ပတ်သတ်လို့ သုတေသနပြုလုပ်နေဆဲ၊ သို့မဟုတ် ဆက်လက်ဖြစ်ပျက်နေဆဲဖြစ်တဲ့ အခြေအနေတစ်ခုအတွက် present perfect ကို သုံးစွဲရပါမယ်။ တကယ်လို့ ဖြစ်ပွားမှုကာလအစဟာ အတိတ်ဖြစ်နေပေမယ့် ၊ ၎င်းအဖြစ်အပျက်ဟာ ဆက်လက်ဖြစ်ပျက်နေဆဲ (သုတေသနပြုလုပ်နေကြဆဲ) အနာဂါတ်မှာလည်း ဆက်လက်ဖြစ်ပျက်နေအုန်းမယ်ဆိုရင်လည်း present perfect tense ကို သုံးစွဲရပါမည်။

ဥပမာ –

1. Since 1998 there have been many attempts to establish an indexMithran 1999, Smithson 2002 ,but until now no one has man aged to slove the issue of .....
2. As yet , a solution to Y has not been found, although three atempts have been made.
3. So far researchers have only found innovative ways to slove, X, but not Y [5, 6, 10].

**မှတ်ချက်။** ။ အထက်ပါ အကြောင်းပြချက်များအတွက် past tense ကို လုံးဝမသုံးစွဲရပါ။

**စည်းကမ်းချက် (၃)**

ယခင်ထုတ်ဝေပြီးဖြစ်တဲ့ စာအုပ်များ၊ ရှင်းလင်းချက်များ၊ ဆောင်းပါးများကို ပြန်လည်ဆွေးနွေးပြောဖို့အတွက် present simple tense ကို သုံးစွဲရပါမည်။

**ဥပမာ –**

1. The theorem state that the highest degree of separation is achieved when ...
2. The lemma asserts that , for any given strategy of player 1,there is a corresponding ...

**စည်းကမ်းချက် (၄)**

ပြီးဆုံးသွားပြီဖြစ်တဲ့ လုပ်ရပ်တစ်ခုကို ပြောဆိုတဲ့အခါ (သို့) မိမိဖတ်ရှုတဲ့ စာအုပ် စာစောင်စသည့်တို့ကို ရေးသားခဲ့သည့် ရက်စွဲအတိအကျတို့ကိုဖော်ပြတဲ့အခါ ထုတ်ဝေသည့်ခုနှစ်ကို စာသားအတွင်းထည့်ပြီး ရေးသားတဲ့အခါ "Simple past tense" ကိုသုံးစွဲရပါမည်။ အတိတ်တွင် ဖြစ်ပျက်ခဲ့တဲ့ အကြောင်းအရာများကို ပြန်ပြောပြရတဲ့ သက်သေအခြေပြု သုတေသန (သမိုင်း ၊ ဆေးဝါး) စတဲ့ သုတေသနမျိုး တွေလည်း အတိတ်ကာလဖြင့်သာသုံးစွဲရပါမည်။

**ဥပမာ –**

1. The first approahces used a manual registration of cardiac images, using anatomical markers defined by an expert operator along all images in the temporal sequence. Then in 1987, a new method was introduced which ...
2. This problem was first analyzed in 1994 (Peters).
3. Various solutions were found in the late 1990. [Bernstein 1997, Schmidt 1998].
4. "After serving as minister to France, Jefferson would go on to become the President of the United States".

**ရှောင်ရန် (Don't use)**

အောက်ပါအသုံးစွဲများဟာ acdemic level များမှာ အသုံးမပြုသည့် အရေးအသား များဖြစ်ပြီး ရှောင်ရှားရပါမည်။

"Contraction "- သုတေသန စာတမ်းများ၊ academic စာစောင်များ ရေးတဲ့အခါ " အတိုကောက်စကားလုံးများ၊ အတိုချုံ့စကားလုံးများ "မသုံးစွဲရပါ။

ဥပမာ - **They're / don't /didn't etc ....,**

Sentence fragments ဆိုတာ ကတ္တား၊ ကြိယာစသည့် မပြည့်စုံဝါကျများကို ဆိုလိုပါသည်။

ဥပမာ - "Jefferson,who served as minister to France during the Critical Period"Comma splices - ဆိုတာ ဝါကျ (၂)ခု ဆက်သွယ်မှုဟာ caluse ဖြင့်ဆက်ရမည့်အရာကို ကော်မာသက်သက်ဖြင့် သာဆက်သွယ်ထားခြင်းမျိုး။

ဥပမာ - Thomas Jefferson became minister to France, he went on to become President of the United States ".

Run- on sentences ဆိုတာကတော့ သဒ္ဒါအရေးအသား အားဖြင့်မှားယွင်းတဲ့ ဝါကျဖြစ်ပါသည်။

ဥပမာ - " Jefferson, who was schooled at William and Marry and lived the life of an independent farmer and something of Renaissance man who read avidly and acquired the best private library in American.

# Chicago/Turabian Style

Chicago style ကို Chicago university press မှ research paper,thesis, Dissertation များအတွက် စီစဉ်ရေးသားပြီးထုတ်ဝေပေးခဲ့တာဖြစ်ပါသည်။ မူလစီစဉ်ရေးသားသူနာမည်ဟာ Kate L. Turabian ဖြစ်တာကြောင့် Turabian style လို့လဲသိကြပါသည်။ Chicago/Turabian ဟာ Intext citation ထက် Footnote/Endnote ကိုပဲ သုံးစွဲကြပါသည်။ သို့ပေမယ့် ယခုစာအုပ်မှာ In-text citation စနစ်နှင့် Footnote/Endnote စနစ်(၂)မျိုးလုံးကို ဖော်ပြထားပါသည်။

**အသုံးပြုသည့်နေရာများ**

Chicago/Turabian footnote/endnote/bibligraphy စနစ်ကို ( literature, history,Religion,and English arts) စာပေ၊ သမိုင်း၊ ဘာသာရေး၊ အနုပညာစတဲ့နယ်ပယ်တို့မှာ တွင်တွင်ကျယ်ကျယ်အသုံးပြုကြပါသည်။

**မာဂျင်တည်ဆောက်ပုံ (Margins)**

၁။ လေးဘက်လေးတန် တစ်လက်မ အကွာထားရပါမည်။

၂။ Thesis, Dissertation များအတွက်ဖြစ်ပါကဘယ်ဘက်မာဂျင်မှာ 1 ½ ထားပြီးရေးရပါမည်။

**စာလုံးအမျိုးအစား (Typeface)**

၁။ စာလုံးလှတဲ့ Times New Roman, Georgia,Courier စတဲ့ စာလုံးဖောင့်များကို သုတေသနစာတမ်းတစ်လျှောက်လုံးမှာ ရေးရပါမည်။

၂။ စာလုံးဖောင့်ကိုအနည်းဆုံး ၁၀ (သို့) ၁၂ ကို အသုံးပါ။ intext အတွက် စာလုံးဖောင့် (၁၂ )ကို သုံးကြပြီး footnote/endnote အတွက် စာလုံးဖောင့် (၁၀) ဖြင့် ခေါင်းစဉ် စာလုံးနှင့် အခြားစာလုံးများကိုသုံးကြပါသည်။

**စာလုံးခြားခြင်း (Spacing)**

၁။ Block quotation မှအပ ကျန်တဲ့စာအားလုံးကို Double-space ဖြင့် ရေးရပါသည်။

၂။ Table of contents, figures, tables,footnotes or endnotes,bibliography entries,and reference lists စသည်တို့ ကြားမှာ single-space ဖြင့်ရေးပါ။

**စာမျက်နှာနံပါတ်တပ်ခြင်း (Pagination)**

၁။ ခေါင်းစဉ်စာမျက်နှာများကို (Titles pages) စာမျက်နှာနံပါတ်တပ် စရာမလိုပါ။

၂။ စာမျက်နှာနံပါတ်ရေးရမည့်နေရာ (၃)နေရာရှိပါသည်။

(က) အောက်ခြေက ရေးမယ်ဆိုရင် အလယ်တည့်တည့်

(ခ) အပေါ်က ရေးမယ်ဆိုရင် အလယ်တည့်တည့် (သို့)

(ဂ) အပေါ်က ရေးမယ်ဆိုရင် ညာဘက်ထောင့်နားက ရေးထည့်ရပါမည်။

**စာလုံးအကြီးအသေးနှင့်စာရိုက်ခြင်းပုံစံ (Capitalization and Typography)**

၁။ စာလုံးခေါင်းစဉ်ကို အကြီးဖြင့်ရေးရပါသည်။In notes/bibliography များမှာလဲ စာလုံးကြီးကို *headline-style* ဖြင့် အောက်ပါစကားလုံးများကိုရေးရပါသည်။ nouns, verbs, adjectives,etc.

အောက်ပါစကားလုံးများကိုတော့ စာလုံးသေးဖြင့်ရေးရပါသည်။
prepositions, articles, conjunctions,etc.

Example,

**"Thirteen Ways of Looking at a Blackbird,"** ***History of the Decline and Fall of the Roman Empire."***

plays, novels, TVshows, albums, movies, etc. *စသည်ရှည်လျားတဲ့ အရာများ၏ခေါင်းစဉ်များကို စာလုံးစောင်းဖြင့် ရေးရပါသည်။*

poems,shortstories,chapters,etc.စသည့်အရာများရဲ့ ခေါင်းစဉ်များကို ကောက်နုတ်ချက် သင်္ကေတဖြင့် ရေးရပါသည်။

## ဘာကြောင့် အကိုးအကားများပြဖို့လိုအပ်ပါသလဲ။

ကျွန်တော်တို့အသုံးပြု ကိုးကားနေကြသည့် သတင်းအချက်အလက်များ၏ မူလပိုင်ရှင်များကို အသိအမှတ်ပြုရန်အတွက် အကိုးကားများကိုဖော်ပြရပါတယ်။ ၎င်းအကိုးကားများဟာ စာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းကြေငြာခြင်း၊ ဝက်ဆိုက်၊ စွယ်စုံကျမ်း စသည်တို့ကိုထုတ်လုပ်၊ ဖြန့်ချိ၊ ရေးသားကြတဲ့သူများ ဖြစ်ကြပါသည်။ အကိုးကားဖော်ပြရတဲ့အကြောင်းရင်းတွေကတော့ အောက်ပါအတိုင်း အကျဉ်းချုပ်ပြောနိုင်ပါသည်။

၁။ သတင်းအချက်အလက်များအားလုံးဟာ ကျွန်တော်တို့၏ ကိုယ်ပိုင်စာသားများ မဟုတ်ဘူးဆိုတာကို အသိမှတ်ပြုရန်၊
၂။ ကျွန်တော်တို့ပြောဆို၊ ရေးသားတဲ့အကြောင်းအရာကို ခိုင်မာစေဖို့ထောက်ပံ့ပေးရန်၊
၃။ ကျွန်တော်တို့ အသုံးပြုတဲ့ အကိုးကားစာများအားစာဖတ်သူများ အလွယ်တကူရှာဖွေတွေ့ရှိနိုင်စေရန်၊
၄။ ကျွန်တော်တို့ ဖတ်ရှုသိရှိပြီးသော စာအုပ်များကိုစာဖတ်သူများအားပြသရန်၊
၅။ ကျွန်တော်တို့သည်လည်းပဲ academics နယ်ပယ်မှ ဝင်ရောက်လုပ်ဆောင်ကြောင်းပြသရန်၊
၆။ ကျွန်တော်တို့ ရေးသားတဲ့စာအုပ်များကို ယုံကြည်မှုဖြစ်စေရန်၊
၇။ စာခိုးယူရေးသားခြင်းမှ ရှောင်ကြည်ရန်၊

## စာခိုးယူခြင်း (Plagiarism)

သတင်းစာ၊ ဆောင်းပါး၊ ဝက်ဆိုက်၊ တီဗွီ၊ ရုပ်ရှင်၊ စာအုပ်၊မဂ္ဂဇင်းစသည့်နေရာတွေကအချက်အလက်များကို ယူတဲ့အခါ ဘယ်နေရာကရပါသည်လို့ ၎င်းစာရေးသူကို အလေးမထား၊ အသိအမှတ်မပြုပဲ ၎င်းတို့၏အတွေးအခေါ်၊ စိတ်ကူး စိတ်သန်း ထင်မြင်ချက်များကို မိမိမူပိုင်အရာကဲ့သို့ ရေးသားပြောဆိုတယ်ဆိုရင် သင်ဟာ စာခိုးယူတဲ့ပြစ်မှုကိုကျူးလွန်တာပဲဖြစ်သည်။ ၎င်းခိုးယူတဲ့အထဲမှာ သတင်းအချက် အလက်များ၊ ပုံများ၊ဇယားကွက်များစတဲ့အရာတွေကို ကော်ပီကူးယူ တာလဲပါဝင်ပါသည်။ ငွေပေးပြီး

မိမိကိုယ်စားသူများကို ရေးသားခိုင်းပြီး မိမိရေးသားသလိုလုပ်တယ်ဆိုရင်(သို့) ငွေပေးပြီး သူများ ရေးသားချက်များကို ဝယ်ယူပြီး မိမိရေး သလိုပြောဆိုတယ်ဆိုရင်လဲ ၎င်းတို့ကို စာခိုးယူခြင်းအမှုကို ကျူးလွန်ခြင်းပဲလို့ ပြောဆိုရမှာပါ။

တခါတရံမှာ ရည်ရွယ်ချက်မပါပဲ ၎င်းပြစ်မှုကိုလည်း ကျူးလွန်မိကောင်း ကျူးလွန်မိမှာပါ။

**ဥပမာ–**

အကိုးကားတစ်ခုမျှမပြပဲ သူများရေးထားတဲ့ စကားလုံးတွေ၊ ပြောဆိုထားသည့် စကားလုံးတွေကို မိမိ၏စာထဲမှာထည့်ခြင်း၊ သူများရေးထားတဲ့ စာ၏ တစ်စိတ်တစ်ပိုင်းကို အသုံးပြုခြင်းတွေပဲဖြစ်ပါတယ်။ အတိုချုပ်ပြောရရင်တော့ ထိုကဲ့သို့ လုပ်ဆောင်ခြင်းကို ဉာဏဆိုင်ရာပစ္စည်း ခိုးယူသုံးစွဲခြင်း (Intellectual Property)လို့ ဆိုရမှာ ဖြစ်ပါသည်။ ထို့ကြောင့် ပညာရေးအသိုင်းအဝိုင်းမှာ လက်မခံကြပါ။

**ဘယ်အချိန်တွေမှာအကိုးအကားတွေပြသင့်ပါသလဲ။**

၁။ အခြားသူတွေ၏ စကားလုံးတွေကို တိုက်ရိုက်ကောက်နှုတ်ဖော်ပြလိုသည့်အခါ

၂။ မိမိ၏ ကိုယ်ပိုင်ဝါကျတွေထဲမှာ သူများ၏ စကားလုံးများကို ထည့်သွင်းလိုသည့်အခါ

၃။ အခြားတစ်ယောက်ယောက်၏ အတွေးအခေါ်၊ အယူအဆများကို အကျဉ်းချုပ်ဖော်ပြလိုသည့်အခါ

၄။ မည်သည့်အရင်းအမြစ်များမှမဆို အခြားသော သတင်းအချက်အလက်များ၊ ဒေတာများ၊ ဖြစ်ရပ်မှန်အချက်အလက်များကို အသုံးပြုလိုသည့်အခါ

၅။ ဇယားများ၊ ပုံများ၊ ဂရပ်များ၊ (သို့) မိမိကိုယ်ပိုင်မဟုတ်သည့် အရာတို့ကိုအသုံးပြုလိုသည့်အခါ

**အကိုးကားအထောက်ထားပံ့ပိုးပေးဖို့ မလိုအပ်တဲ့အချိန်**

ယေဘုယျဗဟုသုတလို့သတ်မှတ်ထားကြသည့် သတင်းအချက်အလက်များ၊ အမြင်များဖြစ်တယ်ဆိုရင် အကိုးကားအထောက်ထားပံ့ပိုးပေးစရာ မလိုအပ်ပါချေ။ ယေဘုယျဗဟုသုတလို့ သတ်မှတ်ထားကြသည့် အရာများကတော့ –

၁။ အကိုးကားအထောက်ထားမပါဘဲ အနည်းဆုံး(၅)ခုလောက်ရှိတဲ့ သတင်းအရင်းအမြစ်များမှာ တူညီကြတဲ့သတင်းအချက်အလက်များဖြစ်နေသည့်အခါ

၂။ သင့်၏စာဖတ်သူနှင့် သတင်းအချက်အလက်များသည် အရင်ကတည်းကပင် ရင်းနှီးကျွမ်းဝင်မှု ရှိကောင်းရှိနိုင်သည့်အခါ

၃။ စာဖတ်သူများက အထွေထွေသတင်းအရင်းအမြစ်ထဲမှ အချက်အလက်များကို သတင်းစာ၊ မဂ္ဂဇင်းစသည့်နေရာတွေမှာ အလွယ်တကူရှာဖွေလို့ ရနိုင်မယ်ဆိုရင် အကိုးအကားအထောက်ထား ပံ့ပိုးပေးစရာမလိုပါ။

**In-text citation အကြောင်း**

In- text citation ဆိုတာ အက်ဆေး(သို့)သုတေသနစာတမ်းတွေထဲက အတွင်းပိုင်းစာသားတွေမှာ အကိုးအကားအထောက်ထားပြတာကို ခေါ်ပါသည်။ ၎င်းသည် ကိုယ်ပိုင်ရေးသားမှုကို အထောက်ထားများနှင့် ခိုင်မာအောင်ပြပြီး စာဖတ်သူများကို နိုးကြားစေပါသည်။ In- text citation ပြုလုပ်မှုပုံစံသည် ရေးသားအသုံးပြုမည့် စနစ်အပေါ်မှာ အများဆုံးမူတည်ပါသည်။ တချို့အကိုးကားများမှာ စာရေးသူနာမည်၊ အကိုးကားယူသည့် စာမျက်နှာနံပါတ်(author' name page)ဖြစ်ပြီး၊ တချို့အကိုးကားများမှာ စာရေးသူနာမည်၊ ထုတ်ဝေသည့် ခုနှစ် (author-date style)၊ တချို့ အကိုးကားများမှာ စာရေးသူနာမည်၊ ထုတ်ဝေသည့် ခုနှစ်၊ မိမိအကိုးကားယူသည့်စာ၏ စာမျက်နှာနံပါတ် (author -date page) ၊ စာရေးသူ၊ အကိုးကားနံပါတ် (author -number system) တို့ကိုအသုံးပြုကြပါသည်။ ထိုသို့ အကိုးကားယူကြသည့်အခါ စာရေးသူမပါသည့် စာအုပ်များကိုမူ ၎င်းစာအုပ်နာမည်၊ ဆောင်းပါးနာမည်စသည်တို့၏ နေ့စွဲတို့ကို ထည့်သွင်းဖော်ပြဖို့လိုအပ်ပါသည်။ In-text Citation ဟာ သုတေသန စာတမ်း၊ စာစီစာကုံးများ၊ သီးခြားလေ့လာမှုများ၏ အတွင်းပိုင်း စာသားမှာ လက်သည်းကွင်းစဖြင့် ဖော်ပြကြပါသည်။

## Works Cited/ Reference list

**WorksCited** ဆိုတာသုတေသနစာတမ်းတွေ၏ နောက်ဆုံးစာမျက်နှာမှာ ပါသည့် အကိုးကား အထောက်ထားဖြစ်ပါတယ် သင်ရေးသားသည့်စာအုပ် (သို့) စာတမ်းအတွင်း ပိုင်းမှာ ကိုးကားပြထားသည့် အထောက်ထားတွေယူခဲ့သော စာအုပ်တွေ၏ စာရင်းပဲ ဖြစ်ပါသည်။ ၎င်းနေရာမှာ ပင်ကျမ်းစာ အညွှန်းများကို ရေးသားသုံးစွဲလေ့ရှိကြပါသည်။ ၎င်းအကိုးကားပြနည်းသည် အကိုးကားစာသားအတွင်းမှ နံပါတ်အတိုင်း နံပါတ်စဉ်တပ်ပြီး အကိုးကားပြခြင်းတစ်မျိုး(Numeric reference list)၊ စာရေးသူများ၏ အမည်အက္ခရာ အစဉ်အတိုင်း ရေးရသည့် အကိုးကား ပြခြင်းတစ်မျိုး(Alphabetical order)ဟု (၂)မျိုး ရှိပါသည် Works Cited ပုံစံဟာ MLA,Harvard, Vancouver နှင့် APA စနစ်တို့မှာ ပြုလုပ်လေ့ရှိပြီး ကောလိပ်၊ ယူနီဗာစတီတို့၏ Humanities,medicine,arts ဌာနတို့မှာ ကျယ်ကျယ်ပြန့်ပြန့် သုံးစွဲကြပါသည်။

## Numeric order referencing style

Numeric order ဆိုတာ မိမိရေးသားသည့်စာသားအတွင်း **intext** လုပ်တုန်းက အကိုးကားစာသားများအတွင်း နံပါတ်တို့ဖြင့်ရေးသားပြီး၊ စာအုပ်၏ နောက်ဆုံးတွင် အကိုးကားစာအုပ်များစာရင်းကိုဖော်ပြရာတွင် စာသားအတွင်းတပ်ခဲ့သည့် နံပါတ်စဉ် အတိုင်း ပထမကိုးကားထားသော စာသား၏ စာအုပ်ကို အရင်ဆုံးအကိုးကားစာအုပ် စာရင်းတွင် ဖော်ပြရတာဖြစ်ပါသည်။

### ဥပမာ

ယခုဥပမာကိုသေချာကြည့်ရင် နားလည်မယ်ထင်ပါသည်။ အထက်ပါ ဥပမာ တွင် အကိုးကားစာသားအတွင်းတပ်ခဲ့သော နံပါတ်စဉ်အတိုင်း အကိုးကားစာအုပ် စာရင်းပြသည့် အခါမှာလဲ နံပါတ်စဉ်အတိုင်းသာဖော်ပြရတဲ့နည်းဖြစ်ပါသည်။

| **Inside your essay :** | **At the end of the eassay :** |
|---|---|
| **Citing references within the text:** | **Referance list :** |
| ------------- the suggestion of technology in the home has been explored by Baron [13] extensively.It was echoed by Thomas who pointed out that the Internet and email would bring the office into the home [14p.56]within the next year. | 12 ------------ |
| | 13.M.Baron.Technology in the home.*Computers Tomorrow,1996,13(4),123-125* |
| ----------- however, the solution mentioned by Baron [13p.124]was too far from what the present technology can offer ............ | 14. A.J Thomas. The electronic cottage.Bristol: Petrie Press ,1995 |
| It a recent discussion on technology at home, Steve Bass[15]commented that there is no need to rush into --------- | 15. S. Bass. Home office :upgrade or by new? Part1.PC World.8 September 2004.[Online] Available from: http://www.pcworld com/article/id,117490-page.1-cupgrading/articel.html[Accessed 20 January 2005.] |
| | 16............................... |

## Alphabetical order referencing style

အက္ခရာအစဉ်အလိုက် အကိုးကားစာအုပ်ပြခြင်းဆိုတာ အင်္ဂလိပ်စာရေး ဆရာများ၏ အမည်သည် A နှင့်စထားတယ်ဆိုပါစို့၊ ၎င်းစာရေးသူအမည်များကို B နှင့် အစပြုထားသည့် စာရေးသူ အမည်များထက် ဦးစွာပထမ အကိုးကား စာအုပ်စာရင်းတွင် ဖော်ပြရပါသည်။ အမည် (၂)လုံးသည် တူညီသည့် အက္ခရာ တစ်လုံးနှင့် စထားတယ်ဆိုရင် ၎င်းအမည်၏ ဒုတိယ စာလုံးကိုကြည့်ပြီး စီရပါသည်။ ဒုတိယစကားလုံးသည်လဲ တူညီနေတယ်ဆိုရင် တတိယ စာလုံးကိုကြည့်ပြီး အကိုးကား စာရင်းတွင် ကြီးစဉ်ငယ် လိုက်စီရပါသည်။

## Footnote/Endnote

Footnote/endnote ဆိုသည်မှာ အကိုးကားစာသား၏ အဆုံးမှာ ဂဏန်း သေးသေးလေးဖြင့် endnote ပြပြီး၊ ၎င်းစာရွက်၏ အောက်ခြေမှာ Footnote ဖြင့် ၎င်းဂဏန်းအတိုင်း စာအုပ်လိပ်စာတို့ကိုဖော်ပြရသည့် စနစ်ကိုဆိုလိုပါသည်။ ၎င်းစနစ် ကို သုံးရခြင်းကတော့ စာဖတ်သူများကို အလွယ်တကူနှင့် စာအုပ်ညွှန်းကိုဖော်ပြနိုင် ပါသည်။

(၁) တိုက်ရိုက်ကောက်နုတ်ကိုးကားတဲ့အခါ စာသားအဆုံးမှာ မူလစာရေးသူ အမည်၊ ထုတ်ဝေသည့်ခုနှစ်၊ စာမျက်နှာတို့ကို လက်သည်းကွင်းစဖြင့်ဖော်ပြခြင်း။

**(Direct Quotation/Direct Quote)**

We see this self doubt again in the second scene, when Agatha **comments,** "Oh, times like this I just don't know whether I am right or wrong,good or bad"

(Lester 2001,47)

Still, tobacco company executives insist that they "were not fully aware of the long term damages caused by smoking" (Jeffreys1999,42).

The author **declares**, "All people, rich or poor, should pay the same taxes to the government" (Burdine1998,341).

"Gambling was another vice targeted by the reformers" (Shomaker,1988, 135-36).

"The method was first suggested in2009" (Zeegan 2009, 65).

"The network form is on the rise in a big way, and because of this, societies are entering a new epoch" (Arquilla and Ronfelt 2001,43).

(၂) တိုက်ရိုက်ကောက်နုတ်ကိုးကားသည့်အခါ ကိုးကားစာသားအတွင်းမှာ စာရေးသူ အမည်တို့ကိုထည့်ပြီးဖော်ပြခြင်း/**(Direct Quotation with author's name in sentence)**

Godfried (2002,123) **remarks**, "Ignorance is a skill learned by many of the greatest fools".

As Michael Pollan (2007, 374) observed, "We don't know the most basic things about mushrooms".

"Zeegan (2009, 65) claimed that..."

An author (Goeff 2004,15) then **relates** that his childhood was "the time he learned to live on less than bread alone".

According to Gould (2007, 428), the song "spreads a deadpan Liverpudlian irony over the most clichéd sentiment in all of popular music."

## စကားပြေဖြင့်ပြန်လည်ရေးသားကိုးကားနည်း (Paraphrasing)

စကားပြေဖြင့်ပြန်လည်ရေးသားတယ်ဆိုတာက မူလစာရေးသူရဲ့ စကားလုံးများနဲ့ဆင်တူတဲ့စကားလုံးများကိုပြောင်းလဲသုံးစွဲခြင်း၊ဝါကျကိုပြောင်းလဲသုံးစွဲခြင်း၊ ဝါကျအစဉ်ကိုဖျက်ပြီးဆိုလိုရင်းမပျက်ပြောင်းလဲသုံးစွဲခြင်းလို့ရှိပါသည်။

Paraphrasingကိုသုံးပြီး ကိုးကားတဲ့အခါမှာလည်း သုံးစွဲနည်း(၂)ခုရှိပါတယ်။

(၁) ကိုးကားစာသားအဆုံးမှာ စာရေးသူရဲ့အမည်၊ ထုတ်ဝေတဲ့ ခုနှစ်၊ စာမျက်နှာနံပါတ်တို့ကို လက်သည်းကွင်းစဖြင့် ထည့်ရေးသားနည်း။(Paraphrasing)

(၂) ကိုးကားစာသားအတွင်းမှာ မူလစာရေးသူအမည်၊ ထုတ်ဝေတဲ့ခုနှစ်၊ ကိုးကားစာမျက်နှာနံပါတ်တို့ကိုထည့်ရေးသားနည်း။(Paraphrasing with author's name in sentence)

## စကားပြေဖြင့်ပြန်လည်ရေးရာတွင် လိုက်နာရမည့်စည်းကမ်း

(၁) မူရင်းစာကိုအခေါက်ခေါက်အခါခါ လုံးဝပြည့်ပြည့်ဝဝ နားလည်သည့်တိုင်အောင်ဖတ်ပါ။

(၂) ဖတ်ရင်း မူလစာသားကို မိမိစကားလုံးဖြင့်အတိုချုံးပြောင်းလဲမှတ်သားပါ။

(၃) မိမိရေးသားတဲ့စာကို မူရင်းစာနှင့်တိုက်ကြည့်ပါ။ တူနေရင်ပြန်ရေးပါ။ ဝါကျတည်ဆောက်ပုံမတူပါစေနှင့်။ တစ်နည်းနည်းနဲ့ မတူညီတာဖြစ်ရပါမယ်၊ သို့ပေမယ့် ဆိုလိုရင်းလုံးဝမပျောက်စေရ။ ကိုးကားရာတွင် ကော်မာမသုံးရပါ။

## (၁) ကိုးကားစာသားအဆုံးမှာ စာရေးသူ၏အမည်၊ ထုတ်ဝေတဲ့ခုနှစ်၊ စာမျက်နှာနံပါတ်တို့ကို လက်သည်းကွင်းစဖြင့်ထည့်ရေးသားနည်း

**Exam:**

Many penguins are difficult to interact with emotionally.Penguins often lash out at any life form around them, and their behavior shows evidence of wild mood swings (Smith 2003,94-96).

Her preoccupation with her looks **suggests** that she is too superficial to make her a believable character (Kershner 2000,84).

The article **discusses** the qualities of a good American housewife in the 1950s

(Kelser 2000,87).

The color blue became more prominent in the eighteenth century (Pastoureau 2001, 124).

### (၂) ကိုးကားစာသားအတွင်းမှာ မူလစာရေးသူအမည်၊ထုတ်ဝေတဲ့ခုနှစ်၊ ကိုးကား စာမျက်နှာနံပါတ်တို့ကိုထည့်ရေးသားနည်း။

**Exam :**

Despite criticism, Johnston(1999,67) agrees that smoking should be banned in all public places.

Though bar owners disagree, Johnston(2001,99) maintains that banning smoking in all public places will not negatively affect bar business.

An author (Burdow 2006,72) **believes** that being able to write using proper English grammar is an important skill.

Jefferson claims that banning smoking in public places will hurt America's economy (1996,114).

## မူလစာသားများကိုအကျဉ်းချုံ့ပြီး ပြန်လည်ရေးသားနည်း (Summarizing)

အကျဉ်းချုံ့ပြီးရေးတယ်ဆိုတာ စာအုပ်တစ်ခုလုံးကိုဖြစ်စေ၊ ဆောင်းပါး၊ ဓာတ်လမ်း တစ်ခုလုံးကိုဖတ်ရှု ၊ ကြည့်ရှုပြီး၊ သဘောပေါက်နားလည်တဲ့အခါ လိုရင်းအနှစ်ချုပ်ကိုကွက်ပြီး ပြန်လည်ရေးသားရတဲ့နည်းကို ဆိုလိုပါတယ်။ အကျဉ်းချုံး ရေးပြီး ကိုးကားတဲ့အခါ နည်းလမ်း(၂)ခု ရှိပါတယ်။

(၁) စာသားအဆုံးမှာ စာရေးသူ၊ ထုတ်ဝေတဲ့ခုနှစ်တို့ကိုရေးထည့်ခြင်း။

(၂) စာသားအတွင်း စာရေးသူ၊ ထုတ်ဝေတဲ့ခုနှစ်တို့ကိုရေးထည့်ခြင်း။

### (၁) စာသားအဆုံးမှာ စာရေးသူ၊ ထုတ်ဝေတဲ့ခုနှစ်တို့ကိုရေးထည့်ခြင်း

**Exam :**

The author cautions that people who subject themselves to smoky bars night after night could develop illnesses such as emphysema or lung cancer (Patel 2010,78).

## (၂) စာသားအတွင်းစာရေးသူ၊ထုတ်ဝေတဲ့ခုနှစ်တို့ကိုရေးထည့်ခြင်း

Michael Perry's essay (2002,259-262), "Scarlet Ribbons," is about one man's internal conflict in choosing between a technical education and a liberal arts education; even though he first chooses a technical education, he eventually leaves his chosen field of nursing to become a writer, which is rooted in a liberal arts education.

## Long Quotation or Block quotation ဖြင့် အကိုးကားလုပ်ခြင်း

ဝါကျ (၄) ကြောင်းထက် ပိုလွန်ရှည်လျားတဲ့ အကိုးကားမျိုးကို **Block quotation** လို့ခေါ်ကြပါတယ်။ ၎င်းအကိုးကားမျိုးဟာ များသောအားဖြင့် ကဗျာ၊ စကားပြေ စာကြောင်းတွေကို အကိုးကားယူတဲ့အခါ ရေးရပါတယ်။

**စည်းကမ်းချက်များ**

(၁) ကောက်နုတ်ချက် သင်္ကေတမထည့်ပါနှင့်။

(၂) မျဉ်းကြောင်းသစ်မှာ စတင်ရေးပါ။ (အခြားစာများရေးနေသည့် မျဉ်းကြောင်း တွင် မရေးပါနှင့်။)

(၃) ပထမစာကြောင်းကို ဘယ်မာဂျင်မှ တစ်လက်မလောက် အကွာကနေ စတင်ပါ။

(၄) ကိုးကားဖော်ပြလိုတဲ့ စာကို ပထမစာကြောင်းထက် နည်းနည်းနောက်ဆုတ်ပြီးရေးပါ။

(၅) ကောက်နုတ်ချက်စာသားကို Double space ဖြင့် ရေးသားပါ။

(၆) ကောက်နုတ်ချက်အဆုံး မှာ လက်သည်းကွင်းစဖြင့် စာရေးသူအမည်၊ စာမျက်နှာနံပါတ်၊ကဗျာဆိုပါက လိုင်းအရေအတွက်စသည်တို့ကို ရေးသားထည့်ပေးပါ။

**Exam :**

Nelly Dean treats Heathcliff poorly and dehumanizes him throughouther narration:

They entirely refused to have it in bed with them, or even in their room, and I had no more sense, so, I put it on the landing of the stairs, hoping it would be gone on the morrow. By chance, or else attracted by hearing his voice, it crept to Mr. Earnshaw's door, and there he found it on quitting his chamber. Inquiries were made as to how it got there; I was obliged to confess, and in

recompense for my cow ardice and inhumanity was sent out of the house. (Bronte 2001,78)

He concludes with the following observation:

The new society that I sought to depict and that I wish to judge is ly being born.Time has not yet fixed its form; the great revolution that created it still endures,and in what is happening in our day it is almost impossible to discern what will pass away with the revolution itself and what will remain after it. (Tocqueville 2000, 673)

**Square Bracket [ ] ကိုအသုံးပြုခြင်း** (Adding in quotations)

အကိုးကားလုပ်သည့်အခါ ရှင်းရှင်းလင်းလင်း တိတိကျကျလုပ်ရတာကြောင့်၊ မူလဝါကျအတွင်း မရှင်းမလင်းဖြစ်နေတဲ့ စကားလုံးများကို ရှင်းလင်းစေရန် စာတိုးထည့်ပေးခြင်း၊ စကားလုံးပြောင်းလဲပစ်ရခြင်းမျိုးတွေလုပ်ပြီး စာဖတ်သူတို့ နားလည်လွယ်စေရန် လုပ်ရတာရှိပါသည်။ ထိုကဲ့သို့ လုပ်ရမယ်ဆိုရင် Bracket [ ]ကို on အသုံးပြုရပါသည်။ သုံးစွဲရတဲ့ ရည်ရွယ်ချက် (၂)ခု ရှိပါသည်။

၁။ ဝါကျတွင်းစကားလုံးတစ်ခု၊ အကြောင်းအရာတစ်ခုကို ရှင်းလင်းစေရန်၊

၂။ မူလဝါကျမှ စကားလုံးများကို ပြောင်းလဲထားကြောင်း ပြောဆိုရန်၊

**(၁) ဝါကျတွင်း စကားလုံးတစ်ခု၊အကြောင်းအရာတစ်ခုကို ရှင်းလင်းစေရန် ဥပမာ –**

**(က) Pronoun တစ်ခုကို စကားလုံးထည့်ပြီး နားလည်လွယ်အောင်ရှင်းပြခြင်း။**

(Clarification of pronoun and addition to some information)

**Original** : "At that time he had not yet flown the Atlantic"(Dun 1997,44).

**Your sentence** :"At that time he [Lindbergh] had not yet flown the Atlantic" (Dun 1997,44). **Original** : He reminded me a little of Walt Disney's version of a mad scientist."

**Your sentence** : He [George Lucas] reminded me a little of Walt Disney's version of a mad scientist."

(ခ) သတင်းအချက်အလက်များကို ဖြည့်စွက်ပေးခြင်း။**(addition to some information)**

**Original** :"The sampling records were examined for levels of the same atmo spheric gasses."

**Your sentence** :"The sampling records [from the mountain weather stations] were examined for levels of the same atmospheric gasses."

**Original** : "Books used show methods of finding information but not much information in preparation of the review " (Libutti & Kopala 2003,15).

**Your sentence** : "Books used [in classes] show methods of finding information but not much information in preparation of the review " (Libutti & Kopala 2003,15).

**Original:** According to Putz (2002,98) "Some people try on fat diet after another with little success because these diets do not promote sustainable or ongoing weight loss".

**Your sentence:** According to Putz (2002,98) "Some people [who are trying to lose weight] try on fat diet after another with little success because these diets do not promote sustainable or ongoing weight loss".

(၂) မူလဝါကျထဲမှ စကားလုံးများကို ပြောင်းလဲရေးသားရတဲ့အခါ

(Change a lower case to a capital letter or a capital letter to lower letter )

**Original** : Many readers have taken seriously Tennyson's exhortation " To strive, to seek, to find, and not to yield."

**Your sentence** : Many readers have taken seriously Tennyson's exhortation "[t]o strive, to seek, to find, and not to yield."

**Original** : Dillard concludes her essay by saying that she "think it would be well, and proper, and obedient, and pure, to grasp your one necessity and not let it go, to dangle from it limp wher ever it take you."

**Your sentence** : Dillard concludes her essay by saying that she "think[s] it would be well, and proper, and obedient, and pure, to grasp your one necessity and not let it go, to dangle from it limp wherever it take you."

**ဘာသာပြန်ဆိုခြင်း (Translation or interpretion )**

**Original** : Smith writes in his autobiography: "I seldom spoke in French class. When I did, I usually just said jene sais pas [I don't know]."

**Your sentence** : Smith writes in his autobiography: "I seldom spoke in french class. When I did, I usually just said jene sais pas [I don't know]."

**မူလကောက်နုတ်ချက်ထဲမှာ Grammar နှင့် စာလုံးပေါင်းအမှားအယွင်း တွေကို ပြောဆိုရန်အတွက် Sic အသုံးပြုခြင်း။( Pointing Grammar errors in sentence)**

Sic ဆိုတာ latin စာလုံးဖြစ်ပြီး "thus" လို့ သဘောရပါသည်။ မှားနေသည့် စကားလုံးလို့ ထင်နေရက်နှင့် မပြင်ပဲ မူလစာရေးသူဟာ ဘာကိုရေးထားလဲဆိုတာ တိတိကျကျ မပြောဆိုနိုင်တာကြောင့် ခုလိုသုံးစွဲရတာပါ။

**Original** : She wrote, "They made there beds."

**Your sentence** : She wrote, "They made there [sic] beds."(should be :They mad their beds)

**Original** : The witness told me that she "seen [sic] him leave the house."

**Yoursentence** : The witness told me that she "seen [sic] him leave the house."(Should be : see him leave the house)

**စကားလုံးအချို့ကိုဖျောက်ပြီး၊ လိုနေတဲ့ စကားလုံးကိုထည့်ပေးတဲ့အခါ (omitting and addition)**

According to Jillian Michaels,success is within reach when you have establishment in yourself; trust in the significance of your life...[because] destiny is awaiting you (285).

**အစက်ချပြီး အကိုးကားလုပ်ခြင်း(Use of an Ellipsis-omitting words in quotations)**

ကောက်နုတ်ချက်ထဲက စာသားတွေဟာများနေလို့ ချန်လှပ်ထားခဲ့ချင်တယ် ဆိုရင် အစက်လေးတွေချပြီး အသုံးပြုရပါတယ်။ ၎င်းကိုအင်္ဂလိပ်စာမှာ **Ellipse (...)**

three periods လို့ ခေါ်ကြတယ်။ **Ellipsis**သုံးရတဲ့ အကြောင်းကတော့

(၁) to create a pause for effect in speech- စကားပြောဆိုနေသည့်အတွင်း ခဏလေးရပ်တန့်လိုက်ခြင်းကို ပြောဆိုရန်၊

(၂) to show an unfinished thought- အဆုံးမသတ်နိုင်သေးသော အတွေးအခေါ်တစ်ခုကို ပြောအဆိုရန်၊

(၃) to show a trail off by speaker into silence- စီးမျောပြီး စကားပြောဆိုခြင်းကိုပြသရန်အတွက် သုံးကြတာဖြစ်ပါသည်။ အစက်ချတဲ့အခါ three (. . .) or four (. . . .) periods ကို သုံးကြပါသည်။ ရေးသားသောနည်းဟာ (၃)နေရာရှိပါတယ်။

(၁) ဝါကျပိုင်းကိုဖျောက်ပြီး သုံးစွဲခြင်း ၊

(၂) ဝါကျအလယ်အတွင်း ဖျောက်ပြီး သုံးစွဲခြင်း၊

(၃) ဝါကျအဆုံးကို ဖျောက်ပြီး သုံးစွဲခြင်း။

## (၁) ဝါကျအစကိုဖျောက်ပြီးသုံးစွဲခြင်း

(က) ဝါကျမဆုံးသေးကြောင်းပြောဆိုချင်တယ်ဆိုရင် အဆုံးမှာ အစက် (...)သာ ချရပါမယ်။

**Original** : "The rules clearly state that quidditch is not to be played during school hours because this is the time at which you should be studying."

**Your sentence** : "The rules clearly state that quidditch is not to be played during school hours . . ."

**Original** : Thanks to the popularity of social media, thoughts once kept private or whispered among friends are now out there for the world to see, often in 140 characters or less. And school leaders face great uncertainty as they try to catch up with, intercept, and respond to online misbehavior"(4).

**Your sentence** : "Thanks to the popularity of social media, thoughts once kept private or whispered among friends are now out there for the world to see. . . . And school leaders face

great uncertainty as they try to catch up with, intercept, and respond to online misbehavior" (4).

(၃) ဝါကျအဆုံးကို ဖျောက်ပြီးသုံးစွဲခြင်း။

**Original** : One further habit which was somewhat weakened, although by no means broken, was that of combining native words into self-inter preting compounds. The extent to which words like bookhouse or boatswain entered into Old English has been pointed out above. The practice was not abandoned in Middle English but in many cases where a new word could have been easily formed on the native model, a ready-made French word was borrowed instead. –Baugh, A History of the English Language (221).

**Your sentence** : " One further habit which was somewhat weakened . . . was that of combining words into self-interpreting compounds. . . .The practice was not abandoned. . . ."

## In-text-citation ပြုလုပ်နည်း

### ၁။ စာရေးဆရာပါတဲ့စာများမှ ကိုးကားနည်း (Work with author:editor/translator/compiler)

စာရေးဆရာ၊တည်းဖြတ်သူ၊ ဘာသာပြန်ဆိုသူ တစ်ယောက်တည်းပြုစုထားတဲ့ ပုံနှိပ်စာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာဆောင်းပါး၊ အွန်လိုင်းစာအုပ် မဂ္ဂဇင်းဂျာနယ်၊ သတင်းစာဆောင်းပါး၊ သုတေသန စာတမ်းများမှစာများကို ကောက်နှုတ်ကိုးကားမယ် ဆိုရင်–

**Author's name year, page**

What on introspection seems to happen immediately and without eûort is often a complex symphony of processes that take time to complete"(LeDoux 2003,116).

While one school claims that "material culture may be the most objective source of information we have concerning America's past" (Deetz 1996, 259), others disagree.

The color blue became more prominent in the eighteenth century (Pastoureau 2001,124).

According to Gould(2007, 428),the song "spreads a deadpan Liverpudlian irony over the most clichéd sentiment in all of popular music.

As Michael Pollan (2007, 374) observed, "We don't know the most basic things about mushrooms.

**မှတ်ချက်။** စာရေးသူအမည်မပါပဲ တည်းဖြတ်သူများ၊ ဘာသာပြန်သူများပါသည့် စာအုပ်များမှာ ၎င်းတို့ရဲ့အမည်ကိုသာရေးထည့်ပါ။ တည်းဖြတ်၊ ဘာသာပြန် စာအုပ်များဖြစ်ပေမယ့် မူလစာရေးသူအမည်ကို အလေးထား ရေးထည့် ထားပါက မူလစာရေးသူအမည်ကို ထည့်ပေးရပါမယ်။

## စာရေးဆရာ ၂ယောက်ပါတဲ့ စာများကိုကိုးကားနည်း (Work with two authors:editors/translators/compilers)

၂။ စာရေးဆရာ (စသည်)၂ယောက် ရေးသားထားသည့် ပုံနှိပ်စာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာဆောင်းပါး၊ အွန်လိုင်းစာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာ ဆောင်းပါး၊စွယ်စုံကျမ်း၊သုတေသနစာတမ်းများမှ စာများကို ကောက်နှုတ်ကိုးကား မယ်ဆိုရင်–

The slavery exists still now,though it is said that it has been gone for so long (Peter and thomas 22).

And john (2010,33) state that agriculture were reborn in techinological ways in the eastern countries.

## စာရေးဆရာ ၃ ယောက်ရေးတဲ့စာများကို ကိုးကားနည်း (Work with three authors:editors/translators/compilers)

၃။ စာရေးဆရာ(စသည်) (၃) ယောက် ရေးသားထားသည့် ပုံနှိပ်စာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာဆောင်းပါး၊အွန်လိုင်းစာအုပ်၊ မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာ ဆောင်းပါး၊ သုတေသနစာတမ်းများမှစာများကို ကောက်နှုတ်ကိုးကားမယ်ဆိုရင်–

The authors discuss effective ways to incorporate sources into a paper (Graff, Birkenstein, and Durst 2011,3).

Smith, Yang, and Moore (1997,76) argue that tougher gun control is not needed in the United States.

